ကုမ္ပဏီအမည် - Myanmar Ease Net Co., Ltd.

လုပ်ငန်း - လူဝင်မှုကြီးကြပ်ရေးဦးစီးဌာနနှင့် Myanmar Ease Net Co., Ltd.တို့မှ B.O.Tစနစ်ဖြင့် Online eVisa လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | ကုမ္ပဏီမှအဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်အတွက်တင်ပြလာခြင်း | ၁၀-၃-၂၀၁၆ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး၁၁/၂၀၁၆သို့တင်ပြခြင်း | ၁၄-၃-၂၀၁၆ | | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေးဆုံးဖြတ်ချက်ပေးပို့ခြင်း | ၂၂-၃-၂၀၁၆ | | |
| ၄ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၁၇-၃-၂၀၁၆ (ပ-ကြိမ်) | | |
| | | ၉-၅-၂၀၁၆ (ဒု-ကြိမ်) | ၂၈-၇-၂၀၁၆ | |
| | (ခ) သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန | ၁၇-၃-၂၀၁၆ | ၃၁-၃-၂၀၁၆ | |
| | (ဂ) ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန | ၁၇-၃-၂၀၁၆ | ၂၉-၃-၂၀၁၆ | |
| ၅ | ကုမ္ပဏီသို့ဌာနဆိုင်ရာသဘောထားမှတ်ချက်များအရပြင်ဆင်တင်ပြရန်အကြောင်းကြားခြင်း | ၆-၄-၂၀၁၆ | | |
| ၆ | ကုမ္ပဏီမှလိုအပ်ချက်များပြင်ဆင်တင်ပြလာခြင်း | ၄-၈-၂၀၁၆ | | |
| ၇ | ကော်မရှင်အစည်းအဝေးသို့တင်ပြခြင်း (၁၅/၂၀၁၆)MIC | ၁၉-၈-၂၀၁၆ | | |
| | **စုစုပေါင်းကြာမြင့်ရက် ၁၄၇ ရက်** | | | |

| | |
|---|---|
| ကုမ္ပဏီအမည် | Myanmar Ease Net Co., Ltd. |
| အဖွဲ့အစည်းပုံသဏ္ဍာန် | မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | B.O.Tစနစ်ဖြင့် Online eVisaလုပ်ငန်း |
| တည်နေရာ | **ကုမ္ပဏီတည်နေရာ**- အမှတ် (၁၄)၊အခန်း (၃၀၂)၊ MICT Park၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။<br>**လုပ်ငန်းဆောင်ရွက်မည့်နေရာ**-ရန်ကုန်၊ မန္တလေး၊ နေပြည်တော် လေဆိပ်နေရာများနှင့် မြဝတီ၊ ကော့သောင်း၊ ထီးခီး၊ တာချီလိတ် နယ်စပ်ဝင်ပေါက်များ။ |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ် ၂၀,၄၈၁.၁၈သန်း |
| လုပ်ငန်းသက်တမ်း | ၁၀နှစ် |
| အရင်းကြေကာလ | ၄နှစ်၁၁ လ |
| IRR | ၁၃.၂၇ % |

အထက်ပါ လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ **Cost & Benefit** ကိုအောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၃.၀၀သန်း (တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၂၀သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | - | - |
| ၄ | ဝင်ငွေခွန် | ကျပ် ၄,၇၂၅.၉၆ သန်း | ကျပ် ၅,၅၃၄.၃၅သန်း |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | - | ကျပ် ၉,၉၂၃.၇၇သန်း |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | - | - |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | ကျပ် ၈၃.၄၃သန်း<br>တစ်နှစ်ဝင်ငွေကျပ် (၄၈) သိန်း<br>ကျော်ပါကအခွန်ပေးရမည့်ဝန်ထမ်း (၉) ဦး |
| ၈ | CSR(၂%) | - | ကျပ် ၇၁၀.၁၄သန်း |
| ၉ | မြေငှားရမ်းခငွေ | - | - |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | - | ပြည်တွင်းလုပ်သား (၁၈)ဦး<br>အလုပ်အကိုင်ရရှိမည်ဖြစ်၍ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့်ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှု ကိုအထောက်အကူပြုစေပါသည်။ |
| | | **ကျပ် ၄,၇၂၈.၉၆သန်း** | **ကျပ် ၁၆,၂၅၂. ၉၈သန်း** |
| | | **၁ း ၄** | |

## လူဝင်မှုကြီးကြပ်ရေးဦးစီးဌာနနှင့် Myanmar Ease Net Co., Ltd. တို့မှ B.O.T စနစ်ဖြင့် Online eVisa လုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

<table>
<tr><td>၁။</td><td>ကုမ္ပဏီအမည်</td><td>- Myanmar Ease Net Co., Ltd.</td></tr>
<tr><td>၂။</td><td>လုပ်ငန်းအဆိုပြုသူအမည်</td><td>- ဦးကျော်မိုးနိုင်<br>- မန်နေဂျင်းဒါရိုက်တာ</td></tr>
<tr><td>၃။</td><td>ရင်းနှီးမြှုပ်နှံမှုပုံစံ</td><td>- မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု</td></tr>
<tr><td>၄။</td><td>အဆိုပြုလုပ်ငန်းအမျိုးအစား</td><td>- B.O.T စနစ်ဖြင့် Online eVisa လုပ်ငန်း</td></tr>
<tr><td>၅။</td><td>လုပ်ငန်းနေရာ</td><td>- ကုမ္ပဏီတည်နေရာ- အမှတ် (၁၄)၊ အခန်း (၃၀၂)၊ MICT Park၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။<br>- လုပ်ငန်းဆောင်ရွက်မည့်နေရာ- ရန်ကုန်၊ မန္တလေး၊ နေပြည်တော် လေဆိပ်နေရာများနှင့် မြဝတီ၊ ကော့သောင်း၊ ထီးခီး၊ တာချီလိတ် နယ်စပ်ဝင်ပေါက်များ။</td></tr>
<tr><td>၆။</td><td>စုစုပေါင်းမတည်ငွေရင်း</td><td>
<table>
<tr><th></th><th>ကျပ်သန်း</th><th>US$(သန်း)</th><th>စုစုပေါင်း(ကျပ်သန်း)</th></tr>
<tr><td>ငွေသား</td><td>၃၈၄.၄၇</td><td>-</td><td>၃၈၄.၇၄</td></tr>
<tr><td>စက်နှင့်စက်ပစ္စည်းကိရိယာများ</td><td>၄၂၆.၇၉</td><td>၂.၄၃</td><td>၃,၃၄၇.၁၉</td></tr>
<tr><td>ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ</td><td>၂၆.၇၀</td><td>-</td><td>၂၆.၇၀</td></tr>
<tr><td>ကျွမ်းကျင်မှုနည်းပညာ</td><td>-</td><td>၁၃.၉၄</td><td>၁၆,၇၂၂.၅၅</td></tr>
<tr><td>စုစုပေါင်း</td><td>၈၃၈.၂၃</td><td>၁၆.၃၇</td><td>၂၀,၄၈၁.၁၈</td></tr>
</table></td></tr>
<tr><td>၇။</td><td>တည်ဆောက်ရေးကာလ</td><td>- NA</td></tr>
<tr><td>၈။</td><td>ပဏာမစူးစမ်းလေ့လာမှုကာလ</td><td>- NA</td></tr>
<tr><td>၉။</td><td>ရင်းနှီးမြှုပ်နှံမှုသက်တမ်း</td><td>- ၁၀နှစ်</td></tr>
<tr><td>၁၀။</td><td>ပဋိညာဉ်စာချုပ်သက်တမ်း</td><td>- ၁၀နှစ်</td></tr>
<tr><td>၁၁။</td><td>ဝန်ဆောင်မှု(၆နှစ်မြောက်)</td><td>
<table>
<tr><th>No</th><th>Description</th><th>Person/ year</th><th>Service Rate/Per son (US$)</th><th>Myanmar Ease Net Co., Ltd. (US$)</th><th>Department of Immigration (US$)</th></tr>
<tr><td>(က)</td><td>Tourist Visa</td><td>၁,၂၀၀,၀၀၀</td><td>၅၀</td><td>၁၃.၀၀</td><td>၃၇.၀၀</td></tr>
<tr><td>(ခ)</td><td>Business Visa</td><td>၃၀၀,၀၀၀</td><td>၇၀</td><td>၁၃.၀၀</td><td>၅၇.၀၀</td></tr>
</table>
- ပထမ(၅)နှစ်တွင် Online eVisa စနစ်ဖြင့် ကမ္ဘာလှည့်ဗီဇာ (Tourist Visa)လျှောက်ထားမှုဝန်ဆောင်ခ (Visa Processing Fees)အား Online မှတစ်ဆင့် တစ်ဦးလျှင် အမေရိကန်ဒေါ်လာ (၅၀) ကောက်ခံမည်ဖြစ်၍ နိုင်ငံတော်မှ အမေရိကန်ဒေါ်လာ (၃၆)ဒေါ်လာ၊ ကုမ္ပဏီမှ အမေရိကန်ဒေါ်လာ(၁၄)ဒေါ်လာခွဲဝေယူမည်ဖြစ်ပါသည်။<br>- ပထမ(၅)နှစ်တွင် (Business Visa) လျှောက်ထားမှုဝန်ဆောင်ခ (Visa Processing Fees)အား Online မှတစ်ဆင့် တစ်ဦးလျှင် အမေရိကန်ဒေါ်လာ (၇၀)ဒေါ်လာ ကောက်ခံမည်ဖြစ်၍ နိုင်ငံတော်မှ အမေရိကန်ဒေါ်လာ(၅၆)၊ ကုမ္ပဏီမှ အမေရိကန်ဒေါ်လာ(၁၄) ဒေါ်လာခွဲဝေယူမည်ဖြစ်ပါသည်။</td></tr>
</table>

| | | |
|---|---|---|
| ၁၂။ | ကုမ္ပဏီ၏(၆)နှစ်မြောက်ဝင်ငွေ<br>အသုံးစရိတ်<br>အသားတင်အမြတ် | - ကျပ် ၂၃,၄၀၀.၀၀ သန်း<br>- ကျပ် ၂၀,၀၇၉.၃၉ သန်း<br>- ကျပ် ၃,၃၂၀.၆၁ သန်း |
| ၁၃။ | နိုင်ငံတော်မှရရှိမည့်<br>အကျိုးအမြတ်(၆)နှစ်မြောက်<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန် | <br><br>- ကျပ်၁,၁၀၆.၈၇သန်း<br>- ကျပ်၁,၁၁၄.၂၉သန်း |
| ၁၄။ | ဝန်ထမ်းအင်အား | - ပြည်တွင်း ၁၈ ဦး (တစ်လလျှင် ပြည်တွင်းလုပ်သားတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ၁၃၀,၀၀၀ ကျပ်၊ အမြင့်ဆုံးလစာမှာ ကျပ် ၂,၇၅၀,၀၀၀ဖြစ်ပါသည်။)<br>- ပြည်ပ ၂ ဦး (တစ်လလျှင် ပြည်ပ လုပ်သား တစ်ဦး၏ လစာမှာ US$ ၁,၀၀၀ ဖြစ်ပါသည်။) |
| ၁၅။ | အရင်းကြေကာလ | - ၄ နှစ် ၁၁ လ |
| ၁၆။ | အရင်းအနှီးပေါ်အကျိုးအမြတ်<br>ပြန်ပေါ်နှုန်း (IRR) | - ၁၃.၂၇ % |
| ၁၇။ | ငွေကြေးအထောက်အထား | - ငွေကြေး အထောက်အထားများအဖြစ် မန်နေးဂျင်းဒါရိုက်တာ ဦးကျော်မိုးနိုင် အမည်ဖြင့် ဧရာဝတီဘဏ်၌ (၈-၈-၂၀၁၆) နေ့စွဲရှိ ကျပ်ငွေ (၁၇,၁၂၇,၃၄၅.၄၂) ရှိကြောင်း၊ ဒါရိုက်တာ ဒေါ်ချိုချိုမာ အမည်ဖြင့် ဧရာဝတီဘဏ်၌ (၈-၈-၂၀၁၆) ရက်စွဲဖြင့် ကျပ်ငွေ (၂,၅၉၂,၄၃၈.၇၇)နှင့် မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်၌ (၂၇-၇-၂၀၁၆) ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ (၈၇၂၁.၉၃) ရှိကြောင်း၊ ဒါရိုက်တာ ဦးလှိုင်ဝင်းကို အမည်ဖြင့် ဧရာဝတီဘဏ်၌ (၈-၈-၂၀၁၆) ရက်စွဲဖြင့် ကျပ်ငွေ (၃,၀၁၆,၅၈၅.၁၆) ရှိကြောင်း တင်ပြထားပါသည်။ |
| ၁၈။ | နှစ်ဦးသဘောတူပဋိညာဉ်<br>စာချုပ်ပါအဓိကအချက်များ | - အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန၊ လူဝင်မှုကြီးကြပ်ရေးဦးစီးဌာနနှင့် Myanmar Ease Net Co., Ltd.တို့မှ (၁-၉-၂၀၁၄) ရက်စွဲဖြင့် ချုပ်ဆိုထားသည့် နှစ်ဦးသဘောတူ ပဋိညာဉ်စာချုပ်ပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-<br>(က) ပဋိညာဉ်စာချုပ်သည် ၂၀၁၄ ခုနှစ်၊ စက်တင်ဘာလ (၁) ရက်နေ့မှ စတင်အကျိုးသက်ရောက်ပြီး လုပ်ငန်းသက်တမ်းကာလ မှာ ၁၀ နှစ် ဖြစ်ပါသည်။ **အပိုဒ်-၉**<br>(ခ) Online eVisa System လုပ်ငန်း သဘောတူစာချုပ်သက်တမ်းတိုးမြှင့်ခြင်းကို နှစ်ဦးနှစ်ဖက်ညှိနှိုင်းပြီး နိုင်ငံတော်အစိုးရ၏ တည်ဆဲဥပဒေ၊ လုပ်ထုံးလုပ်နည်း ညွှန်ကြားချက်များနှင့်အညီဆက်လက်ဆောင်ရွက်သွားမည်ဖြစ်သည်။ |

အပိုဒ်-၁၀

(ဂ) Online eVisa System စနစ်တွင်ကမ္ဘာလှည့်ဗီဇာ (Tourist Visa)လျှောက်ထားမှုဝန်ဆောင်ခ(Visa Processing Fees) အား Online မှတစ်ဆင့် တစ်ဦးလျှင် အမေရိကန်ဒေါ်လာ (၅၀) ကောက်ခံရန်၊ ထိုကောက်ခံရရှိသော အမေရိကန် ဒေါ်လာ (၅၀) မှ စာချုပ်၏ ပထမ (၅)နှစ်သက်တမ်းအတွက် လုပ်ကိုင်ခွင့်ပြုသူအား တစ်ဦးလျှင် အမေရိကန် ဒေါ်လာ (၃၆) ဒေါ်လာနှင့် ဒုတိယ(၅)နှစ် အတွက် အမေရိကန် ဒေါ်လာ(၃၇)ဒေါ်လာ (ဘဏ်လွှဲငွေများ နှုတ်အပြီး အသား တင်)အား လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူက (၇)ရက်တစ်ကြိမ် သတ်မှတ်သဘောတူထားသော မြန်မာ့နိုင်ငံခြားကုန်သွယ်မှု ဘဏ်(MFTB)ဘဏ်၏ လူဝင်မှုကြီးကြပ်ရေးဦးစီးဌာနငွေစာ ရင်းသို့ လွှဲပြောင်းပေးရန် လုပ်ငန်းလုပ်ကိုင်ခွင့် ရသူက သဘောတူတာဝန်ယူပါသည်။ **အပိုဒ်-၁၂**

(ဃ) ကုမ္ပဏီသည် Service Charges အဖြစ် တစ်ဦးလျှင် အမေရိကန်ဒေါ်လာ (၁၄)ဒေါ်လာနှင့် ဒုတိယငါးနှစ် သက်တမ်းအတွက် တစ်ဦးလျှင် အမေရိကန်ဒေါ်လာ (၁၃) ဒေါ်လာ ကောက်ခံရန် သဘောတူပါသည်။ လုပ်ကိုင်ခွင့်ရရှိ သူသည် ကောက်ခံရရှိသည့် Service Charges အပေါ် Withholding Tax ၂ % ကိုလုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူထံ ဗီဇာအခကြေးငွေ ခွဲဝေပေးသည့်နေ့ရှိ ငွေလဲလှယ်နှုန်းဖြင့် ပြည်တွင်းအခွန်များ ဦးစီးဌာနသို့ ပေးသွင်းရန် တာဝန်ယူ သည်။ **အပိုဒ်-၁၃**

(င) လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသူသည် မြန်မာ့နိုင်ငံခြားကုန်သွယ်မှု ဘဏ် (MFTB)တွင် ဘဏ်အာမခံအဖြစ် (Bank Deposit) အားခုနစ်ရက် တစ်ပတ်လျှင် အမေရိကန်ဒေါ်လာ (၃)သိန်း (US$ သုံးသိန်းတိတိ)ကို လုပ်ငန်းဆောင်ရွက်စဉ် ကာလ အတွင်းပေးသွင်းရန်နှင့် eVisa စနစ်ဖြင့် ဝင်ရောက်လာ သည့် ခရီးသည်တိုးတက်များပြား ဝင်ရောက်မှုအပေါ်မူတည် ၍ ထပ်မံတိုးမြှင့်သတ်မှတ်ရန် သဘောတူတာဝန်ယူပါသည်။

**အပိုဒ်-၁၅**

(စ) Online eVisa System လုပ်ငန်းအား သဘောတူချုပ် ဆိုထားသော ကာလကုန်ဆုံး၍ သက်တမ်းတိုးမြှင့်ခြင်း မရှိ တော့ပါက eVisa System Design Structure (Programming Code) များ၊ တပ်ဆင်ထားသော စက် ပစ္စည်းများအားလုံးနှင့် Software များ Banking စနစ်များ

| | | |
|---|---|---|
| | | အား လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူထံသို့ Computer များ၊ Software များ၊ Hardware များ၊ Data Server များ၊ အခြားဆက်စပ်ပစ္စည်းများသည် လွှဲပြောင်းသည့်အချိန်တွင် နောက်ဆုံးပေါ် (Update System)များဖြင့် အဖိုးစားနားမပါဘဲလွှဲပြောင်းပေးရမည်။ **အပိုဒ်-၂၅** |
| ၁၉။ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | - CSR လုပ်ငန်းများအတွက် အသားတင်အမြတ်ငွေ၏ ၂ %၊ အသုံးပြုသွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၂၀။ | မီးဘေးကာကွယ်ထားရှိမှု အစီအစဉ် | - မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေး စီမံချက် ရေးဆွဲတင်ပြထားပါသည်။ |
| ၂၁။ | နှစ်စဉ်လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - ၁၃,၂၈၄ kWh |
| ၂၂။ | သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးအစီအစဉ် | - ကုမ္ပဏီအနေဖြင့် သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်းတင်ပြထားပါသည်။ |
| ၂၃။ | အခြားတင်ပြချက်များ | - Online eVisa လုပ်ငန်းစီမံချက် အကောင်အထည် ဖော်နိုင်ရန်အတွက် အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာနမှ (၂၇-၆-၂၀၁၄) ရက်နေ့မှ (၁၆-၇-၂၀၁၄) ရက်နေ့အထိ အိတ်ဖွင့်တင်ဒါခေါ်ယူခဲ့ပြီး Myanmar Ease Net Co., Ltd. အား ပွင့်လင်းမြင်သာစွာ ရွေးချယ်မှုပြုလုပ်ခဲ့ပါကြောင်းတင်ပြထားပါသည်။<br>- ပြည်ထောင်စုရှေ့နေချုပ်ရုံး သဘောထားမှတ်ချက် နှင့်အညီပြင်ဆင်ချုပ်ဆိုထားသော နှစ်ဦးသဘောတူ ပဋိညာဉ်စာချုပ်နှင့် ပြင်ဆင်ချက် သဘောတူစာချုပ်များကို တင်ပြထားပါသည်။<br>- Myanmar Ease Net Co., Ltd. သည် (၃၀-၁၂-၂၀၁၁) ရက်နေ့တွင် ဖွဲ့စည်းမှတ်ပုံတင်ထားပြီး (၁၁-၁၂-၂၀၁၄)ရက်နေ့မှ စ၍ သက်တမ်းတိုးခွင့်ပြုထားပါကြောင်း ကုမ္ပဏီမှတ်ပုံတင် လက်မှတ်၊ MOA ၊ AOA(မိတ္တူ) နှင့် ဒါရိုက်တာစာရင်းတို့ကို တင်ပြထားပါသည်။<br>- Myanmar ICT Development Corp., Ltd. နှင့် Myanmar Ease Net Co., Ltd. တို့ ချုပ်ဆိုထားသော ရုံးခန်းငှားရမ်းခြင်း သဘောတူစာချုပ်ကို တင်ပြထားပါသည်။ |
| ၂၄။ | စိစစ်တင်ပြချက် | (က) လူဝင်မှုကြီးကြပ်ရေးဦးစီးဌာနမှ Online eVisa လုပ်ငန်းအား Myanmar Ease Net Co., Ltd. နှင့် B.O.T စနစ်ဖြင့် စာချုပ်ချုပ်ဆိုလုပ်ကိုင်ခွင့်ပြုရန်(၃၁-၁၂-၂၀၁၄) ရက်စွဲဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့ခြင်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ကော်မရှင်ခွင့်ပြုမိန့် မဖြစ်မနေလျှောက်ထားရန် မလိုပါကြောင်း၊ ကော်မရှင်သို့ အဆိုပြုချက် |

တင်ပြလိုပါက ပြည့်စုံသော အဆိုပြုချက်ပြုစု၍ အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန မှတစ်ဆင့် ပြည်ထောင်စုရှေ့နေချုပ်ရုံး သဘောထားမှတ်ချက် နှင့်အညီပြင်ဆင်ထားသော B.O.T စာချုပ် (မူကြမ်း) နှင့်အတူတင်ပြပေးရန် အကြောင်းပြန်ကြားချက်အရ အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာနမှတဆင့် အဆိုပြုချက် အပြည့်အစုံပြုစု၍ တင်ပြလာခြင်းဖြစ်ပါသည်။

(ခ) B.O.T စာချုပ်အရ ကုမ္ပဏီမှ လူဝင်မှုကြီးကြပ်ရေးဦးစီးဌာန အား Online eVisa လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်ရန် လိုအပ်သော Hardware များ၊ Software များ၊ ပြည်တွင်း/ပြည်ပပညာရှင်များ၊ Bank Transfer Charges များ၊ ၂၄ နာရီ/၇ ရက်အတွက် လိုအပ်သော ထောက်ပံ့ရေးစနစ် (Supporting) နှင့် ပစ္စည်းများ၊ အခြားကုန်ကျစရိတ်များ အားလုံးအပါအဝင် eVisa လုပ်ငန်းစနစ် တစ်ခုလုံး ဆက်လက်တိုးချဲ့မည့် လုပ်ငန်းများအပါအဝင် စဉ်ဆက်မပြတ် ခေတ်မီနေစေရေးအတွက် ဆောင်ရွက်ပေးမည်ဖြစ်ကြောင်း စိစစ်တင်ပြအပ်ပါသည်။

(ဂ) ကုမ္ပဏီသည် (၁-၉-၂၀၁၄) ရက်နေ့တွင် လူဝင်မှုကြီးကြပ်ရေးဦးစီးဌာန နှင့် Online e-Visa System လုပ်ငန်းအားဆောင်ရွက်ရန် သဘောတူညီချက် ပဋိညာဉ်စာချုပ်၊ (၁-၇-၂၀၁၅) ရက်နေ့တွင် ပြင်ဆင်ချက် သဘောတူညီချက် ပဋိညာဉ်စာချုပ်များ လက်မှတ်ရေးထိုးပြီးဖြစ်ကြောင်းနှင့် ရန်ကုန်၊ မန္တလေးနှင့် နေပြည်တော် လေဆိပ်တို့တွင် လူဝင်မှုကြီးကြပ်ရေးဦးစီးဌာန နှင့် ပူးပေါင်း၍ လုပ်ငန်း စတင်ဆောင်ရွက်လျက် ရှိပြီးဖြစ်ကြောင်းစိစစ်ရပါသည်။

(ဃ)Online eVisa System စနစ်တွင် ကမ္ဘာလှည့်ဗီဇာ (Tourist Visa) လျှောက်ထားမှုဝန်ဆောင်ခ (Visa Processing Fees) အား Online မှတစ်ဆင့် တစ်ဦးလျှင် အမေရိကန်ဒေါ်လာ (၅၀) ကောက်ခံမည်ဖြစ်၍ နိုင်ငံတော်မှ အမေရိကန် (၃၇) ဒေါ်လာ၊ ကုမ္ပဏီမှ အမေရိကန်ဒေါ်လာ (၁၃) ဒေါ်လာခွဲဝေယူမည်ဖြစ်ပါသည်။ (Business Visa) လျှောက်ထားမှုဝန်ဆောင်ခ (Visa Processing Fees) အားတစ်ဦးလျှင် အမေရိကန် ဒေါ်လာ (၇၀) ကောက်ခံမည်ဖြစ်၍ နိုင်ငံတော်မှ အမေရိကန် (၅၇) ဒေါ်လာ၊ ကုမ္ပဏီမှ အမေရိကန်ဒေါ်လာ(၁၃) ဒေါ်လာခွဲဝေယူမည်ဖြစ်ပါသည်။

(င) ခရီးသည်ထံမှ ဒေါ်လာငွေကြေးဆိုင်ရာ တာဝန်ယူဆောင်ရွက်

ပေးမည့် အဖွဲ့အစည်းမှာ စင်ကာပူအခြေစိုက် eNETS ကုမ္ပဏီ (Money Gateway) ဖြစ်ပါသည်။ နိုင်ငံတကာငွေကြေးလွှဲပြောင်းပေးပို့ခြင်း၊ နိုင်ငံတကာမှ On-Line System ဖြင့် eVisa လျှောက်ထားသူများ၏ အခငွေများအတွက် ငွေပေးချေကတ်များတွင် ငွေ ရှိ-မရှိ စစ်ဆေးခြင်း၊ ကတ်ဟုတ်-မဟုတ်စစ်ဆေးခြင်းစသည့် ငွေလွှဲပြောင်းပေးသော Money Payment Gateway ဝန်ဆောင်မှုပြုလုပ်ပေးသည့် Online Payment Processing လုပ်ဆောင်ရန် တည်ထောင်ထားသော စင်ကာပူနိုင်ငံရှိ နိုင်ငံတကာအသိအမှတ်ပြု နည်းပညာကုမ္ပဏီဖြစ်ပါသည်။

(စ) နိုင်ငံခြားငွေ လက်ခံဆောင်ရွက်ပေးမည့်ဘဏ်မှာ Myanmar Ease Net, e-Nets ကုမ္ပဏီတို့နှင့် စာချုပ်ချုပ်ဆိုထားပြီးဖြစ်သည့် စင်ကာပူအခြေစိုက် UOB (United Overseas Bank) ဖြစ်ပါသည်။

(ဆ) e-Nets Online Payment စနစ်အသုံးပြု၍ ကောက်ခံရရှိသော Visa Processing Fees များကို စင်ကာပူနိုင်ငံရှိ United Oversea Bank (UOB) ဘဏ်ငွေစာရင်း (Galaluz Pte Co., Ltd. ၏ Merchant Account ငွေစာရင်း) မှတစ်ဆင့် သတ်မှတ်ထားသော (MFTB) ရှိ (လူဝင်မှုကြီးကြပ်ရေးဦးစီးဌာန)၏ ငွေစာရင်းသို့ လွှဲပြောင်းပေးမည်ဖြစ်သည်။

(ဇ) Galaluz Pte Co., Ltd. သည် လုပ်ငန်းအဆိုပြုသူ မန်နေဂျင်းဒါရိုက်တာ ဦးကျော်မိုးနိုင် ပိုင်ဆိုင်သည့် စင်ကာပူနိုင်ငံ၏ ဥပဒေနှင့်အညီ တည်ထောင်ထားသော Business and Project Management & Services လုပ်ငန်း ဆောင်ရွက်သည့်ကုမ္ပဏီဖြစ်ပါသည်။

(ဈ) Online e-Visa လုပ်ငန်းစဉ်အား လုပ်ငန်းနိုင်နင်းမှုအပေါ် မူတည်၍ ကျန်ဗီဇာများအား တိုးချဲ့ဆောင်ရွက်သွားမည်ဖြစ်ကြောင်းစိစစ်ရပါသည်။

(ည) ကုမ္ပဏီ၏ဝင်ငွေ၊ နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ်နှင့် အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်းတို့မှာ ကုမ္ပဏီမှ တင်ပြချက်အရ ဖော်ပြထားခြင်းသာ ဖြစ်ပါသည်။

(ဋ) ကုမ္ပဏီမှ တည်ဆောက်ရေးကာလ တင်ပြထားခြင်း မရှိပါကြောင်း နှင့် ပြည်ပမှ တင်သွင်းမည့် အမေရိကန်ဒေါ်လာ ၁၄.၃၄၇ သန်း တန်ဖိုးရှိ ပစ္စည်းကိရိယာများအတွက် အခွန်ပေးဆောင်တင်သွင်းရမည်ဖြစ်ကြောင်းစိစစ်တင်ပြအပ်ပါသည်။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၅(အ)/မ-၀၁၃/၂၀၁၆(၄၀၇)

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဩဂုတ် လ ၈ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန၊ လူဝင်မှုကြီးကြပ်ရေးဦးစီးဌာန နှင့် Myanmar Ease Net Co., Ltd. တို့မှ B.O.T စနစ်ဖြင့် Online eVisa လုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန၊ လူဝင်မှုကြီးကြပ်ရေးဦးစီးဌာန နှင့် Myanmar Ease Net Co., Ltd. တို့မှ ရန်ကုန်၊ မန္တလေး၊ နေပြည်တော်လေဆိပ်နေရာများနှင့် မြဝတီ၊ ကော့သောင်း၊ ထီးခီး၊ တာချီလိတ် နယ်စပ်ဝင်ပေါက်များတွင် B.O.T စနစ်ဖြင့် Online eVisa လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူအလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန၊ လူဝင်မှုကြီးကြပ်ရေးဦးစီးဌာန နှင့် Myanmar Ease Net Co., Ltd. ၏ Online eVisa လုပ်ငန်းအားတာဝန်ယူဆောင်ရွက်ရန် ပြည်ထောင်စုရှေ့နေချုပ်ရုံး သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ချုပ်ဆိုထားသော နှစ်ဦးသဘောတူပဋိညာဉ်စာချုပ် နှင့် ပြင်ဆင်ချက်သဘောတူစာချုပ်၊ Myanmar ICT Development Corp.,Ltd. မှ ဦးစိန်ဝင်းနှင့် Myanmar Ease Net Co.,Ltd. မှ ဒါရိုက်တာ ဦးလှိုင်ဝင်းကို တို့ သဘောတူချုပ်ဆိုထားသည့် ရုံးခန်းငှားရမ်းခြင်း သဘောတူစာချုပ်၊ ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းတို့ကို ပူးတွဲတင်ပြထားပါသည်။

၃။ နှစ်စဉ်အခန်းငှားရမ်းခအနေဖြင့် **ရန်**ကုန်တိုင်း၊ လှိုင်မြို့နယ်၊ တက္ကသိုလ်များလှိုင်နယ်မြေ၊ MICT Park၊ Building (14)၊ Room No(302)ရှိ အခန်းဧရိယာ ၁,၀၄၀ စတုရန်းပေ (၉၆.၆၂ စတုရန်းမီတာ) အား တစ်နှစ်လျှင် ၁၂,၄၈၀,၀၀၀ ကျပ်နှုန်း (တစ်နှစ်တစ်စတုရန်းမီတာလျှင် ၁၂၉,၁၆၇ ကျပ်နှုန်း)ဖြင့် ငှားရမ်းဆောင်ရွက်မည် ဖြစ်ပါကြောင်း (၁) နှစ်သက်တမ်းရှိ အခန်းငှားရမ်းခြင်း စာချုပ်အားပူးတွဲတင်ပြထားပြီး ရန်ကုန်၊ မန္တလေး၊ နေပြည်တော်လေဆိပ်နေရာများနှင့် မြဝတီ၊ ကော့သောင်း၊ ထီးခီး၊ တာချီလိတ် နယ်စပ်ဝင်ပေါက်များတွင် လူဝင်မှုကြီးကြပ်ရေးဦးစီးဌာနနှင့် ပူးပေါင်းဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၄။ အဆိုပြုလုပ်ငန်း၏ လုပ်ငန်းသက်တမ်းကာလမှာ ကနဦး ၁၀ နှစ် ဖြစ်၍ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ ၂၀,၄၈၁.၁၈ ကျပ်သန်း ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ ၁၄.၃၄၇ သန်း တန်ဖိုးရှိစက်ပစ္စည်းနှင့်ကျွမ်းကျင်မှုနည်းပညာများအားပြည်ပမှ တင်သွင်းမည်ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှုအခြေအနေမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | | ကျပ်သန်း | US$ (သန်း) | စုစုပေါင်း(ကျပ်သန်း) |
|---|---|---|---|---|
| (က) | ငွေသား | ၃၈၄.၇၄ | | ၃၈၄.၇၄ |
| (ခ) | စက်နှင့်စက်ပစ္စည်းကိရိယာများ | ၄၂၆.၇၉ | ၂.၄၃ | ၃,၃၄၇.၁၉ |
| (ဂ) | ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ | ၂၆.၇၀ | | ၂၆.၇၀ |
| (ဃ) | ကျွမ်းကျင်မှုနည်းပညာ | | ၁၃.၉၄ | ၁၆,၇၂၂.၅၅ |
| | စုစုပေါင်း | ၈၃၈.၂၃ | ၁၆.၃၇ | ၂၀,၄၈၁.၁၈ |

၅။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း (၁၈)ဦး၊ ပြည်ပဝန်ထမ်း (၂) ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာကျပ် ၁၃၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၂,၇၅၀,၀၀၀ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၁,၀၀၀ ဖြစ်ပါသည်။

၆။ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် အဆိုပြုလုပ်ငန်း၏ ဝန်ဆောင်မှုအမျိုးအစားနှင့်ဝန်ဆောင်ခနှုန်းတို့မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(US$)

| No | Description | Person/ year | Service Rate/Person | Department of Immigration | Myanmar Ease Net Co., Ltd. |
|---|---|---|---|---|---|
| (က) | Tourist Visa | ၁,၂၀၀,၀၀၀ | ၅၀ | ၃၇ | ၁၃ |
| (ခ) | Business Visa | ၃၀၀,၀၀၀ | ၇၀ | ၅၇ | ၁၃ |

၇။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်)တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ်မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အကြောင်းအရာ | ကျပ် (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၂၃,၄၀ပ.၀၀ |
| (ခ) | အသုံးစရိတ် | ၂၀,၀၇၉.၃၉ |
| (ဂ) | အသားတင်အမြတ် | ၃,၃၂၀.၆၁ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၁,၁၀၆.၈၇ သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၁,၁၁၄.၂၉ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၄)နှစ် နှင့် (၁၁)လ ဖြစ်၍ အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ (၁၃.၂၇) ရာခိုင်နှုန်း ဖြစ်ပါသည်။

၉။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်း နှင့်စပ်လျဉ်း၍ ဝန်ဆောင်မှု (Services) လုပ်ငန်းကို ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းအဖြစ် မစဉ်းစားသင့်ပါကြောင်း နှင့် ခွင့်ပြုမည်ဆိုပါက ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

(ခ) **သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ခ)**

အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကိုလျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြ

ထားသည့် လူမှုရေးအကျိုးပြုလုပ်ငန်းများ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility –CSR) အတွက် အသားတင်အမြတ်ငွေ၏ ၂ % အား အသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊ အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်များ ရေးဆွဲ၍ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်၊ **(ကုမ္ပဏီမှ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။)**

(ဂ) **ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ဂ)**

အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန၊ လူဝင်မှုကြီးကြပ်ရေးဦးစီးဌာန တို့နှင့် Myanmar Ease Net Co., Ltd.တို့မှ B.O.T စနစ်ဖြင့် Online eVisa လုပ်ငန်း ဆောင်ရွက်မည့် လုပ်ငန်းသည် ဆက်သွယ်ရေးဥပဒေအရ လုပ်ငန်းလိုင်စင် ရယူဆောင်ရွက်ရန် လိုအပ်ခြင်းမရှိသည့် ဝန်ဆောင်မှုအမျိုးအစား ဖြစ်ပါသဖြင့် ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနအနေဖြင့် သဘောထားမှတ်ချက် ပေးရန် မရှိပါကြောင်းပြန်ကြားထားပါသည်။

၁၀။ ငွေကြေး အထောက်အထားများအဖြစ် မန်နေးဂျင်းဒါရိုက်တာ ဦးကျော်မိုးနိုင် အမည်ဖြင့် ဧရာဝတီဘဏ်၌ (၈-၈-၂၀၁၆) နေ့စွဲရှိ ကျပ်ငွေ (၁၇,၁၂၇,၃၄၅.၄၂) ရှိကြောင်း၊ ဒါရိုက်တာ ဒေါ်ချိုချိုမာ အမည်ဖြင့် ဧရာဝတီဘဏ်၌ (၈-၈-၂၀၁၆) ရက်စွဲဖြင့် ကျပ်ငွေ (၂,၅၉၂,၄၃၈.၇၇) နှင့် မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်၌ (၂၇-၇-၂၀၁၆)ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ (၈,၇၂၁.၉၃) ရှိကြောင်း၊ ဒါရိုက်တာ ဦးလှိုင်ဝင်းကို အမည်ဖြင့် ဧရာဝတီဘဏ်၌ (၈-၈-၂၀၁၆) ရက်စွဲဖြင့် ကျပ်ငွေ (၃,၀၁၆,၅၈၅.၁၆) ရှိကြောင်း တင်ပြထားပါသည်။

၁၁။ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးအတွက် မီးသတ်ဆေးဘူးများ ထားရှိမည်ဖြစ်ပြီး၊ ဝန်ထမ်းများအား မီးဘေးအရေးပေါ် ကာကွယ်နိုင်ရန် အရေးအပေါ် မီးသတ်နည်းပညာများလေ့ကျင့်သင်ကြားပေးခြင်း ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၂။ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်၊ ပတ်ဝန်းကျင်ထိန်သိမ်းရေးနှင့်သန့်ရှင်းသာယာရေးစီမံချက်အစီအစဉ်၊ ဝန်ထမ်းများအတွက် လစာဝင်ငွေခွန်ပေးဆောင်မည့် အစီအစဉ်၊ လျှပ်စစ်ဓါတ်အားသုံးစွဲမှုအစီအမံတို့ကို တင်ပြထားပြီး လူမှုဘဝ သာယာဝပြောရေး (Corporate Social Responsibility -CSR) အတွက် အသားတင်အမြတ်၏ ၂ % ထည့်ဝင်ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၃။ အဆိုပြုလုပ်ငန်းအား အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ် မတ် လ ၁၄ ရက် နေ့တွင် ကျင်းပပြုလုပ်သော (၁၁/၂၀၁၆)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၄။ **စိစစ်တင်ပြချက်**

(က) Online e-Visa လုပ်ငန်းစီမံချက် အကောင်အထည်ဖော်နိုင်ရန်အတွက် အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာနမှ (၂၇-၆-၂၀၁၄) ရက်နေ့မှ (၁၆-၇-၂၀၁၄) ရက်နေ့အထိ အိတ်ဖွင့်တင်ဒါခေါ်ယူခဲ့ပြီး Myanmar Ease Net Co., Ltd. အား ပွင့်လင်းမြင်သာစွာ ရွေးချယ်မှုပြုလုပ်ခဲ့ပါကြောင်း တင်ပြထားပါသည်။

(ခ) ကုမ္ပဏီသည် (၁-၉-၂၀၁၄)ရက်နေ့တွင် လူဝင်မှုကြီးကြပ်ရေးဦးစီးဌာနနှင့် Online e-Visa လုပ်ငန်းဆောင်ရွက်ရန် သဘောတူညီချက် ပဋိညာဉ်စာချုပ်၊ (၁-၇-၂၀၁၅) ရက်နေ့တွင် ပြင်ဆင်ချက်သဘောတူပဋိညာဉ်စာချုပ်များလက်မှတ်ရေးထိုးပြီးဖြစ်ကြောင်းနှင့် ရန်ကုန်၊ မန္တလေးနှင့် နေပြည်တော်လေဆိပ်တို့တွင် လူဝင်မှုကြီးကြပ်ရေးဦးစီးဌာနနှင့် ပူးပေါင်း၍ လုပ်ငန်းစတင် ဆောင်ရွက်လျက်ရှိပြီဖြစ်ကြောင်း စိစစ်တင်ပြအပ်ပါသည်။

(ဂ) Online eVisa စနစ်တွင် ကမ္ဘာလှည့်ဗီဇာ (Tourist Visa) လျှောက်ထားမှု ဝန်ဆောင်ခ (Visa Processing Fees) အား Online မှတစ်ဆင့် တစ်ဦးလျှင် အမေရိကန်ဒေါ်လာ (၅၀) ကောက်ခံမည်ဖြစ်၍ နိုင်ငံတော်မှ အမေရိကန် (၃၇) ဒေါ်လာ၊ ကုမ္ပဏီမှ အမေရိကန် ဒေါ်လာ(၁၃)ဒေါ်လာ ခွဲဝေယူမည်ဖြစ်ပါသည်။ (Business Visa) လျှောက်ထားမှု ဝန်ဆောင်ခ (Visa Processing Fees) အားတစ်ဦးလျှင် အမေရိကန်ဒေါ်လာ (၇၀) ကောက်ခံမည်ဖြစ်၍ နိုင်ငံတော်မှ အမေရိကန် (၅၇) ဒေါ်လာ၊ ကုမ္ပဏီမှ အမေရိကန် ဒေါ်လာ(၁၃)ဒေါ်လာ ခွဲဝေယူမည်ဖြစ်ကြောင်း၊ Online e-Visa လုပ်ငန်းစဉ်အား လုပ်ငန်းနိုင်နင်းမှုအပေါ် မူတည်၍ ကျန်ဗီဇာများအားတိုးချဲ့ ဆောင်ရွက်သွားမည်ဖြစ်ကြောင်းစိစစ်ရပါသည်။

(ဃ) B.O.T စာချုပ်အရ ကုမ္ပဏီမှ လူဝင်မှုကြီးကြပ်ရေးဦးစီးဌာနအား Online eVisa လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်ရန် လိုအပ်သော Hardware များ၊ Software များ၊ ပြည်တွင်း/ ပြည်ပပညာရှင်များ၊ Bank Transfer Charges များ၊ ၂၄ နာရီ/၇ ရက်အတွက် လိုအပ်သော ထောက်ပံ့ရေးစနစ် (Supporting) နှင့် ပစ္စည်းများ၊ အခြားကုန်ကျစရိတ်များ အားလုံးအပါအဝင် eVisa လုပ်ငန်းစနစ် တစ်ခုလုံး ဆက်လက်တိုးချဲ့မည့် လုပ်ငန်းများအပါ အဝင် စဉ်ဆက်မပြတ် ခေတ်မီနေစေရေးအတွက် ဆောင်ရွက်ပေးမည်ဖြစ်ကြောင်းစိစစ် တင်ပြအပ်ပါသည်။

(င) ကုမ္ပဏီမှ တည်ဆောက်ရေးကာလတင်ပြထားခြင်းမရှိပါကြောင်းနှင့် ပြည်ပမှ တင်သွင်းမည့်ပစ္စည်းကိရိယာများအတွက် အခွန်ပေးဆောင် တင်သွင်းရမည်ဖြစ်ကြောင်းစိစစ်ရပါသည်။

ဆုံးဖြတ်ရန်အချက်

၁၅။ အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန၊ လူဝင်မှုကြီးကြပ်ရေး ဦးစီးဌာန နှင့် Myanmar Ease Net Co., Ltd. တို့မှ ရန်ကုန်၊ မန္တလေး၊ နေပြည်တော် လေဆိပ် နေရာများ နှင့် မြဝတီ၊ ကော့သောင်း၊ ထီးခီး၊ တာချီလိတ် နယ်စပ်ဝင်ပေါက်များတွင် B.O.T စနစ် ဖြင့် Online eVisa လုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြု ပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့်ထုတ် ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ

နောက်ဆက်တွဲ(က)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၅ / MIC
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇူလိုင် လ ၂၈ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၇. ၃. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ ရက-၅(အ)/ မ-၀၁၃/ ၂၀၁၆(၁၉၃)

၁။ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာနနှင့် Myanmar Ease Net Co.,Ltd. တို့မှ BOT စနစ်ဖြင့် Online eVisa System လုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန မှတစ်ဆင့် လျှောက်ထားလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ဝန်ဆောင်မှု(Service)လုပ်ငန်းကို ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအဖြစ် မစဉ်းစားသင့်ပါကြောင်းနှင့် ခွင့်ပြုမည်ဆိုပါက ကန့်ကွက်ရန်မရှိကြောင်း အကြောင်းကြားအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(နော်ပန်းသဉ္ဇာမျိုး၊ တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး)

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး
ရန်ကုန်တိုင်းဒေသကြီးလူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန
Myanmar Ease Net Co.,Ltd.
လက်ခံစာတွဲ/မျှောစာတွဲ

D/2016/Lesson(MIC),.(13)

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ဝဝ၁/ MIC(OSS) /ဝ၁( ၁၁၉|၁၆ )
ရက် စွဲ ၊၂ဝ၁၆ခုနှစ် မတ် လ ၃၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာနနှင့် Myanmr Ease Net Co., Ltd တို့မှ BOT စနစ်ဖြင့် Online eVisa System လုပ်ငန်းအားဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၇-၃-၂ဝ၁၆ ရက်စွဲပါစာအမှတ်၊ ရက-၅(အ)/ မ-ဝ၁၃/ ၂ဝ၁၆(၁၉ဝ)

၁။ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာနနှင့် Myanmr Ease Net Co.,Ltd တို့မှ BOT စနစ်ဖြင့် Online eVisa System လုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့်အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ (၁ဝ)နှစ်ဖြစ်ပြီး ဝန်ထမ်းများသက်သာချောင်ချိရေးအစီအစဉ်၊ မီးဘေးကာကွယ်ရေးစီမံချက်များကိုလည်းထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏(၂%)ကိုလူမှုရေးအကျိုးပြုလုပ်ငန်းများတာဝန်ခံဆောင်ရွက်မှု(Corporate Social Responsibility–CSR ) လုပ်ငန်းများတွင်ထည့်ဝင်အသုံးပြုသွားမည်ဖြစ်ကြောင်း၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သန့်ရှင်းသာယာရေးအစီအစဉ်များကို ချမှတ်ဆောင်ရွက်သွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုး

သားမှတ်ပုံတင်ရေးဦးစီးဌာနနှင့် Myanmr Ease Net Co.,Ltd တို့မှ BOT စနစ်ဖြင့် Online eVisa System လုပ်ငန်းများဆောင်ရွက်ရာတွင် အသုံးပြုမည့် ယာဉ်များမှအခိုးအငွေ့များနှင့် ဆူညံသံများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊ လုပ်ငန်းဆောင်ရွက်ရာမှထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများ၊ စွန့်ပစ်အရည်/အစိုင်အခဲများကြောင့် ပတ်ဝန်းကျင်မြေထုနှင့်ရေထုညစ်ညမ်းခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာနနှင့် Myanmr Ease Net Co.,Ltd တို့မှ BOT စနစ်ဖြင့် Online eVisa System လုပ်ငန်းများအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်နည်းစနစ်များအား အသုံးပြုရန်နှင့်အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာအကျိုးပြုလုပ်ငန်းများတာဝန်ခံဆောင်ရွက်မှု( Corporate Social Responsibility–CSR )အတွက် အသားတင်အမြတ်ငွေ၏(၂%)အား အသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအားလိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့်လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်များရေးဆွဲ၍ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်သွားရန်။

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီလိုက်နာဆောင် ရွက်ရန်။

(ဃ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူ

များ၏ ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန**

**ပြည်ထောင်စုဝန်ကြီးရုံး**

စာအမှတ်၊ ဆသန/၂-၀၂/၀၁၅(၂၀၁၆/ ၁၉၉၇ )

ရက်စွဲ၊ ၂ ၀ ၁ ၆ ခု နှစ်၊ မတ်လ ၂၉ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာသည့်ကိစ္စ**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၇.၃.၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၅(အ)/မ-၀၁၃/၂၀၁၆(၁၉၀)

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ရည်ညွှန်းပါစာအရ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာနနှင့် Myanmar Ease Net Co.,Ltd တို့မှ BOT စနစ်ဖြင့် Online e-Visa System ဆောင်ရွက်မည့် လုပ်ငန်းသည် ဆက်သွယ်ရေးဥပဒေအရ လုပ်ငန်းလိုင်စင်ရယူဆောင်ရွက်ရန် လိုအပ်ခြင်းမရှိသည့် ဝန်ဆောင်မှုအမျိုးအစားဖြစ်ပါသဖြင့် ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာနအနေဖြင့် သဘောထားမှတ်ချက်ပေးရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

**ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)**

**(ခင်မောင်သက်၊ အမြဲတမ်းအတွင်းဝန်)**

မိတ္တူကို

- ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန
- ရုံးလက်ခံ / မျှော

ကန့်သတ်

## ကုမ္ပဏီဒါရိုက်တာနှင့်အစုရှင်များ၏နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏အမည် | ဒါရိုက်တာ/အစုရှင်များ၏ ဆက်သွယ်ရန်လိပ်စာ |
|---|---|---|---|
| | Myanmar Ease Net Co., Ltd. | (၁)ဦးကျော်မိုးနိုင်<br>မန်နေးဂျင်းဒါရိုက်တာ<br>မြန်မာ<br>၁၂/အလန(နိုင်) ၀၀၁၀၁၆ | အမှတ်-၂၀၃၊ ရန်ကင်းစင်တာ၊ အမှတ်-၂ ရပ်ကွက်၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| | | (၂) ဦးလှိုင်ဝင်းကို<br>ဒါရိုက်တာ<br>မြန်မာ<br>၁၂/ပဇတ(နိုင်) ၀၀၁၃၂၇ | အမှတ်-၄၊ ခိုင်မာလာလမ်း၊ မိကျောင်းကန်အပိုင်း(၃)၊ သဃ်န်းကျွန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| | | (၃) ဒေါ်ချိုချိုမာ<br>ဒါရိုက်တာ<br>မြန်မာ<br>၁၂/ဥကတ(နိုင်) ၀၁၄၄၃၁ | အမှတ်-၁၀၅၄(က)၊ ယသ၀တီ ၁၆ လမ်း၊ အမှတ်-၁၃ ရပ်ကွက်၊ တောင်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |

၁။ ဆက်သွယ်ရမည့်တယ်လီဖုန်းနံပါတ် - ၀၉- ၅၀၈၈၆၆၃

၂။ ဆက်သွယ်ရမည့်လိပ်စာအပြည့်အစုံ - အမှတ်-၄၊ ခိုင်မာလာလမ်း၊ မိကျောင်းကန် အပိုင်း (၃)၊ သဃ်န်းကျွန်းမြို့နယ်၊ ရန်ကုန်မြို့။

၃။ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်၊ ရာထူး - ဦးလှိုင်ဝင်းကို (ဒါရိုက်တာ)

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - B.O.T စနစ်ဖြင့် Online eVisa လုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/နေ့စွဲ - ၃၂၆၄/၂၀၁၁-၂၀၁၂(၃၀-၁၂-၂၀၁၁)

၆။ ကုမ္ပဏီမှတ်ပုံတင်သက်တမ်းကုန်ဆုံးသည့်နေ့စွဲ - ၂၉-၁၂-၂၀၁၉

၇။ ဘဏ်အမည်နှင့်ဘဏ်စာရင်းအမှတ် - -

လ၀ပန(ဝန်ကြီးရုံး)

7

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၂/၂(၃-၆)( ၀၀၂၈ )/လဝပန
ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ မတ်လ ၄ ရက်

သို့

အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန၊ လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာနနှင့် Myanmar Ease Net Co.,Ltd တို့ Online eVisa လုပ်ငန်းလုပ်ဆောင်ရန် BOT စနစ်ဖြင့် စာချုပ်ချုပ်ဆို လုပ်ကိုင်ခြင်းအား မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီ လုပ်ကိုင်ခွင့်ပြုရေး ညှိနှိုင်းအကြောင်းကြားခြင်း**

ရည်ညွှန်းချက်။ (၁) လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန၏ ၃၁-၁၂-၂၀၁၄ ရက်စွဲပါစာအမှတ်၊ ၁၀၂/လ-၆(၂၉၆၄) စီမံ/လဝက
(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၅-၁၂-၂၀၁၄ ရက်စွဲပါစာအမှတ်၊ ရက-၆/ ၁/၂၀၁၄(၀၁၉၃)
(၃) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈-၁-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက-၄/မ-၁၄၁၂/၂၀၁၅(၀၀၆)

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာနနှင့် Myanmar Ease Net Co.,Ltd တို့ Online eVisa လုပ်ငန်းလုပ်ဆောင်ရန် BOT စနစ်ဖြင့် စာချုပ်ချုပ်ဆို လုပ်ကိုင်ခြင်းအား ၂၀၁၄ ခုနှစ်၊ စက်တင်ဘာလ(၁)ရက်နေ့မှစတင် လုပ်ကိုင်ခဲ့ပြီး ယနေ့တိုင် လုပ်ကိုင်လျက်ရှိပါသည်။ ယခုအခါတွင် ထပ်မံလိုအပ်မည့် ရင်းနှီးမြှုပ်နှံမှုများ ထပ်မံဆောင်ရွက်ရမည် ဖြစ်ပါသည်။

၂။ ယင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်လိုပါသဖြင့် ရည်ညွှန်း(၁)ပါစာဖြင့် ညှိနှိုင်းအကြောင်းကြားခဲ့ရာ ရည်ညွှန်း(၂)ဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရန် မလိုအပ်ပါကြောင်းနှင့် ရည်ညွှန်းချက်(၃)ဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ လုပ်ငန်းဆောင်ရွက်လိုပါက အောက်ပါအချက်အလက်များပြုစု၍ တင်ပြရန် အကြောင်းပြန်ကြားခဲ့ပါသည်-

(က) ပြည့်စုံသော အဆိုပြုချက်ပြုစု၍ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည့်သူ့အင်အားဝန်ကြီးဌာနမှ တဆင့် တင်ပြပေးရန်။

(ခ) အဆိုပါ အဆိုပြုချက်နှင့်အတူ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာနနှင့် BOT စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ရေးအတွက် ပြည်ထောင်စုရှေ့နေချုပ်ရုံး သဘောထားနှင့်အညီ ပြုစုထားသည့် စာချုပ်(မူကြမ်း)များနှင့် ပြည်ထောင်စုရှေ့နေချုပ်ရုံး သဘောထားမှတ်ချက် တင်ပြပေးရန်။

၃။ သို့ဖြစ်ပါ၍ Myanmar Ease Net Co.,Ltd အနေဖြင့် Online eVisa လုပ်ငန်းလုပ်ကိုင်ခြင်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဥပဒေနှင့်အညီ ဆောင်ရွက်လိုပါ၍ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာနနှင့် Myanmar Ease Net Co.,Ltd တို့ ချုပ်ဆိုထားသည့် သဘောတူပဋိညာဉ် စာချုပ်(မူကြမ်း)နှင့် လိုအပ်သော အထောက်အထားများ ပူးတွဲ၍ ညှိနှိုင်းအကြောင်းကြားအပ်ပါသည်။

ပူးတွဲပါ

(၁) လုပ်ငန်းတင်ဒါခေါ်ဆောင်ရွက်သည့်အကြောင်းအရာ

(၂) တင်ဒါရွေးချယ်ပြီး ကုမ္ပဏီသို့ အကြောင်းကြားစာ

(၃) မိမိဝန်ကြီးဌာနမှ နိုင်ငံတော်သမ္မတရုံးသို့ eVisa စနစ် အကောင်အထည်ဖော်ဆောင်ရွက်ရန် တင်ပြခြင်း

(၄) နိုင်ငံတော်သမ္မတရုံး မှ ခွင့်ပြုစာ

(၅) နှစ်ဦးနှစ်ဘက်သဘောတူချုပ်ဆိုသည့် သဘောတူညီချက်ပဋိညာဉ်စာချုပ်

(၆) စာချုပ်(မူကြမ်း)အား ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ သဘောထားမှတ်ချက်တောင်းခံသည့်စာ

(၇) ပြည်ထောင်စုရှေ့နေချုပ်ရုံးမှ စာချုပ်ပါ အချက်အလက်များနှင့်ပတ်သက်၍ ပြင်ဆင်/ဖြည့်စွက် အကြံပြုစာ

(၈) Myanmar Ease Net ကုမ္ပဏီမှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြသည့် အချက်အလက်များ

၄၊ ၃၊ ၁၆
ပြည်ထောင်စုဝန်ကြီး ( လက်မှတ် )
(မြင့်ကြိုင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

ရုံးလက်ခံ

မျှော

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန

စာအမှတ်၊ ၁၀၀/၂(၃) ( ၆၅၁၆ )/ လ ပ န
ရက်စွဲ ၊ ၂၀၁၄ ခုနှစ်၊ ဩဂုတ်လ ၅ ရက်

သို့

သမ္မတဦးစီးရုံး

အကြောင်းအရာ။ e-Visa (သို့မဟုတ်) On-line Visa စနစ်အား တာဝန်ခံဆောင်ရွက်မည့် ကုမ္ပဏီ ရွေးချယ်ပြီးစီးမှု တင်ပြခြင်း

ရည်ညွှန်းချက်။ (၁) နိုင်ငံတော်သမ္မတရုံး၏ ၇-၅-၂၀၁၂ ရက်စွဲပါစာအမှတ်၊ ၅၂ (၂) / ၇ / သမ္မတရုံး

(၂) နိုင်ငံတော်သမ္မတရုံး၏ ၃-၂-၂၀၁၄ ရက်စွဲပါစာအမှတ်၊ ၆၄ (၁) / ၇ / သမ္မတရုံး

၁။ မြန်မာနိုင်ငံအတွင်းသို့ ကမ္ဘာလှည့်ခရီးသည်များ လျင်မြန်လွယ်ကူစွာ ဝင်ရောက်နိုင်ရန်အတွက် ပထမအဆင့်အဖြစ် (၁-၆-၂၀၁၂) ရက်နေ့မှစ၍ ရန်ကုန်၊ မန္တလေး၊ နေပြည်တော် အပြည်ပြည်ဆိုင်ရာ လေဆိပ် (၃)ခုတွင် လုပ်ငန်းဗီဇာ၊ ဖြတ်သန်းဗီဇာ၊ ပြည်ဝင်ဗီဇာတို့ဖြင့် ဝင်ရောက်လိုသည့်နိုင်ငံပေါင်း (၅၁) နိုင်ငံမှ ခရီးသည်များအား ဆိုက်ရောက်ဗီဇာ (Visa on Arrival) စနစ်ဖြင့် စတင်အကောင်အထည်ဖော် ဆောင်ရွက်ခဲ့ပါသည်။ ယခုအခါလုပ်ငန်းများ အဆင်ပြေချောမွေ့နေပြီး၊ နိုင်ငံတော်ရငွေပိုင်းတွင် ယခင်ကထက် (၁၀)ဆခန့် ပိုမိုတိုးတက်ရရှိခဲ့ပြီ ဖြစ်ပါသည်။

၂။ မြန်မာနိုင်ငံသည် အပြည်ပြည်ဆိုင်ရာ မြို့ပြလေကြောင်းအဖွဲ့ (International Civil Aviation Organization) (ICAO) အဖွဲ့ဝင်နိုင်ငံဖြစ်၍ ၎င်း၏စနစ်အရ ခရီးသည်တစ်ဦးအတွက် စစ်ဆေးရန်ကြာမြင့်ရမည့် အချိန်သတ်မှတ်ချက်ရှိခြင်းကြောင့် ကမ္ဘာလှည့်ဗီဇာအား ဆိုက်ရောက်ဗီဇာဖြင့် ခွင့်ပြုရန်ဖြစ်နိုင်ချေမရှိပါသဖြင့် အခြားနိုင်ငံများနည်းတူ e-Visa စနစ်ကျင့်သုံးရန် လိုအပ်ကြောင်း အစီအမံတင်ပြချက်အပေါ် အကောင်အထည်ဖော် ဆောင်ရွက်သွားရန် နိုင်ငံတော်သမ္မတရုံးမှ ရည်ညွှန်း(၁)ဖြင့် လမ်းညွှန်မှုပြုခဲ့ပါသည်။

၃။ သို့ပါ၍ ပြည်ဝင်ခွင့်လွယ်ကူချောမွေ့စေရေး ဒုတိယအဆင့်အဖြစ် e-Visa (သို့မဟုတ်) Online Visa အား အကောင်အထည်ဖော် ဆောင်ရွက်နိုင်ရန် စီမံချက်ရေးဆွဲချိန်တွင် ကြိုတင်သတင်း ရရှိသွားကြသော ကမ္ဘာတစ်ဝှမ်းမှ IT နည်းပညာကုမ္ပဏီများ၊ ဘဏ်လုပ်ငန်းရှင်များသည် လွန်ခဲ့သော (၂) နှစ်ခန့်မှစ၍ ဤဝန်ကြီးဌာနသို့ အကြိမ်ကြိမ်လာရောက် ရှင်းလင်းတင်ပြမှုများပြုလုပ်ခဲ့ပါသည်။ အလားတူပင် နောင်တွင် ဤဝန်ကြီးဌာနအနေဖြင့် နယ်စပ်ဒေသ စီမံခန့်ခွဲရေးစနစ် (Border Management System)အား MoU(၅)နှစ် သက်တမ်းသဘောတူညီချက်ဖြင့်ချိတ်ဆက်ဆောင်ရွက်မည့် ဩစတြေးလျနိုင်ငံ

လူဝင်မှုနှင့်နယ်စပ်ဒေသ ကာကွယ်ရေးဝန်ကြီးဌာနမှ တာဝန်ရှိသူများလည်း e-Visa အလုပ်ရုံဆွေးနွေးပွဲများပြုလုပ်ပေးခြင်း၊ e-Visa တင်ဒါကိစ္စများ ဆောင်ရွက်ရာတွင် စစ်ဆေးသင့်သည့်ကိစ္စများအား သင်တန်းပို့ချခြင်းများ၊ လိုအပ်သည်များ မေးမြန်းခြင်းတို့ကို ဆောင်ရွက်ပေးခဲ့ပါသည်။ ဤအချက်များအပေါ်အခြေခံ၍ e-Visa ဆောင်ရွက်မည့် အစီအမံအား နိုင်ငံတော်သမ္မတရုံးနှင့် ပြည်ထောင်စုအစိုးရအဖွဲ့ရုံးသို့ ထပ်မံတင်ပြခဲ့ပါသည်။

၄။ တင်ပြချက်အပေါ် ပြည်ထောင်စုဝန်ကြီးမှ နိုင်ငံတော်သမ္မတထံသို့ ရှင်းလင်းတင်ပြရန်နှင့် ဆက်သွယ်ရေးနှင့် သတင်းအချက်အလက် နည်းပညာဝန်ကြီးဌာန၊ ဘဏ္ဍာရေးဝန်ကြီးဌာန၊ ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်တို့မှ ပြည်ထောင်စုဝန်ကြီးများ ပါဝင်တက်ရောက်ဆွေးနွေးပေးရန် ရည်ညွှန်း(၂)ဖြင့် ညွှန်ကြားခဲ့ပါသည်။ ညွှန်ကြားချက်အရ (၁၉-၂-၂၀၁၄) ရက်နေ့တွင် နိုင်ငံတော်သမ္မတထံ အဖွဲ့စုံဖြင့် ရှင်းလင်းတင်ပြခဲ့ရာ **"e-Visa စနစ်ကို ၂၀၁၄ ခုနှစ်၊ စက်တင်ဘာလ(၁)ရက်နေ့တွင် စတင်အကောင်အထည်ဖော် ဆောင်ရွက်သွားရန်"** မှတ်ချက်ပြုခဲ့ပါသည်။

၅။ e-visa လုပ်ငန်းစဉ်နှင့် ပတ်သက်၍ ပြည်တွင်းရှိ ဘဏ်လုပ်ငန်းရှင်များအား ဦးစားပေးစနစ်ဖြင့် ပါဝင်စေလိုသောဆန္ဒကြောင့် ပြည်ပနှင့်တိုက်ရိုက်ငွေပေးငွေယူ ပြုလုပ်နိုင်သည်ဆိုသော ကမ္ဘောဇဘဏ်၊ သမဝါယမဘဏ်၊ မြန်မာ့စီးပွားရေးဘဏ်တို့မှ တာဝန်ရှိသူများဖိတ်ကြား၍ online မှငွေကြေးဆိုင်ရာ လွှဲပြောင်းမှုစနစ်နှင့် ဝန်ဆောင်မှုလုပ်ငန်းများအား လာရောက်ရှင်းလင်းစေခြင်း၊ သွားရောက်တွေ့ဆုံ မေးမြန်းခြင်းများနှင့် ဗဟိုဘဏ်တာဝန်ရှိသူများနှင့် အကြိမ်ကြိမ်ဆွေးနွေးခြင်းတို့ကို ဦးစားပေးအဆင့် သတ်မှတ်၍ ဆောင်ရွက်ခဲ့ပါသည်။

၆။ သို့ရာတွင် အထက်အပိုဒ်ပါ ပြည်တွင်းဘဏ်များအနေဖြင့် လုပ်ငန်းဆောင်ရွက်ခွင့်ရရှိရေး ငွေကြေးအကျိုးအမြတ် တစ်ခုတည်းကိုသာ မျှော်ကိုး၍ ဆောင်ရွက်နိုင်စွမ်းရှိကြောင်း ယေဘုယျသဘောမျိုး တင်ပြကြသော်လည်း ကျွမ်းကျင်သူပညာရှင်များ၏ ထောက်ပြစိစစ်ချက်အရ၊ အမှန်တကယ် လက်တွေ့တွင် ဒေါ်လာငွေကြေးလွှဲပြောင်းမှုသည် အမေရိကန်ဘဏ် (Bank of America)သို့ ဖြတ်သန်းရသည်ဖြစ်၍ ကျော်လွှားဆောင်ရွက်နိုင်စွမ်းမရှိခြင်း၊ ရေရှည်တွင် မမျှော်လင့်ဘဲ ဆုံးရှုံးမှုမရှိစေရေးအတွက် တာဝန်ယူနိုင်မှုတွင် အခက်အခဲရှိခြင်း၊ IT နည်းပညာစနစ်တွင် အားနည်းမှုများ ရှိနေခြင်း၊ ဘဏ်လုပ်ငန်းရှင်များ၏ နိုင်ငံတကာတွင် ကျော်ဇောမှုပုံရိပ်များအရ ခရီးသွားများ၏ ယုံကြည်မှုအပိုင်းတွင် ထိခိုက်နိုင်ခြင်း၊ ခိုင်မာသော IT နည်းပညာ အဆင့်မြင့် ကုမ္ပဏီများနှင့်ချိတ်ဆက်ထားမှုမရှိခြင်းတို့ကြောင့် ဖော်ပြပါပြည်တွင်းဘဏ်များကို အသုံးပြုမည်ဆိုပါက e-visa စနစ်နှင့် ခရီးသွားလုပ်ငန်း တိုးတက်ရေးအတွက် မူလရည်မှန်းချက်များကို အပြည့်အဝ အကောင်အထည်ဖော် ဆောင်ရွက်ရန် အခက်အခဲရှိမည်ဖြစ်ကြောင်း၊ စုံစမ်းမေးမြန်းချက်၊ တွေ့ဆုံညှိနှိုင်းချက်၊ IT ကျွမ်းကျင်သူများ၏ သုံးသပ်ချက်များအရ သိရှိရပါသည်။

၇။ လမ်းညွှန်ချက်အပေါ် မူတည်၍ ခေတ်မီ IT နည်းပညာအသုံးပြုနိုင်မှုနှင့် လိုအပ်သလို အဆင့်မြှင့်တင်ပေးနိုင်မှု၊ လုံခြုံစိတ်ချရသော ဘဏ်လုပ်ငန်းစနစ်၊ ဗီဇာကြေးအား အမေရိကန်ဒေါ်လာဖြင့် လွှဲပြောင်းမှုအပေါ် ပိတ်ပင်မှု (Sanction) အား ကျော်လွှားအသုံးပြုနိုင်မှု၊ နောက်(၂)နှစ်အတွင်း ကမ္ဘာလှည့်ခရီးသည် (၅)သန်းခန့်ကို လေဆိပ်/ ရေဆိပ်၊ နယ်စပ်ဝင်ပေါက်အားလုံးမှ ထိန်းသိမ်းဆောင်ရွက်နိုင်မှု လုပ်ငန်းစဉ်တစ်ခုလုံးအတွက် ကုန်ကျစရိတ်အဝဝအား တာဝန်ခံကုမ္ပဏီမှ စိုက်ထုတ်၍ BOT စနစ်ဖြင့် ဆောင်ရွက်နိုင်မှု၊ သဘောတူစာချုပ်သက်တမ်း မကုန်ဆုံးမီ မိမိဝန်ထမ်းများအား လုပ်ငန်းစဉ်တစ်ခုလုံး ထိန်းသိမ်းဆောင်ရွက်နိုင်အောင် သင်တန်းများဆောင်ရွက်ပေးနိုင်ခြင်း၊ ခရီးသည်များထံမှ ပေးသွင်းငွေအား MFTB (သို့မဟုတ်) ဝန်ကြီးဌာန ငွေစာရင်းသို့အရောက် တာဝန်ခံ၊ တာဝန်ယူ ဆောင်ရွက်ပေးနိုင်မှုနှင့် ၂၀၁၄ ခုနှစ်၊ စက်တင်ဘာလ (၁) ရက်နေ့တွင် လုပ်ငန်းစတင်ဆောင်ရွက်နိုင်မှု စသည့်လိုအပ်ချက်များအားဖော်ပြ၍ (၂၇-၆-၂၀၁၄) ရက်နေ့ထုတ် နိုင်ငံပိုင်သတင်းစာများတွင်လည်းကောင်း၊ ဝန်ကြီးဌာန Website www.mip.gov.mm တွင်လည်းကောင်း (၁၉)ရက်ခန့် အချိန်ပေး၍ (၁၆-၇-၂၀၁၄) ရက်နေ့နောက်ဆုံးထားတင်ပြရန် အိတ်ဖွင့်တင်ဒါခေါ်ယူခဲ့ပါသည်။

၈။ ဝန်ကြီးဌာန၏ အခြားသောလုပ်ငန်းများတွင် တင်ဒါစိစစ်ရေးအဖွဲ့အား လမ်းညွှန်ချက်နှင့်အညီ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန **ဒုတိယဝန်ကြီး**တစ်ဦး ဦးဆောင်၍ ဆောင်ရွက်လျက်ရှိသော်လည်း၊ ယခုလုပ်ငန်းစဉ်မှာ ကြီးမားကျယ်ပြန့် ရှုပ်ထွေးခြင်းများကြောင့် ဝန်ကြီးဌာနရှိ ဒုတိယဝန်ကြီး(၂)ဦး စလုံးအား တစ်ဦးအား ဥက္ကဋ္ဌ၊ ကျန်ဒုတိယဝန်ကြီး တစ်ဦးအား ဒု-ဥက္ကဋ္ဌ အဖြစ် တာဝန်ပေးအပ်၍ ဝန်ကြီးဌာနအောက်ရှိ ဦးစီးဌာနများမှ ညွှန်ကြားရေးမှူးချုပ်၊ ညွှန်ကြားရေးမှူးများအား အဖွဲ့ဝင်အဖြစ်လည်းကောင်း၊ အထောက်အကူပြုအဖွဲ့အဖြစ် ဆက်သွယ်ရေးနှင့် သတင်းအချက်အလက် နည်းပညာဝန်ကြီးဌာနမှ IT နည်းပညာအကြံပေးနှင့် မြန်မာနိုင်ငံတော်ဗဟိုဘဏ်နှင့် ဘဏ္ဍာရေးဝန်ကြီးဌာနမှ ငွေကြေးဆိုင်ရာအကြံပေး၊ ပညာရှင်များကိုပါ ထည့်သွင်းဖွဲ့စည်းဆောင်ရွက်ခဲ့ပါသည်။ (တင်ဒါ **စိစစ်ရေးအဖွဲ့ ဖွဲ့စည်းမှုအား နောက်ဆက်တွဲ- က ဖြင့် တင်ပြအပ်ပါသည်)**

၉။ တင်ဒါစည်းမျဉ်းသတ်မှတ်သည့်ရက်အတွင်း အိတ်ဖွင့်တင်ဒါဝင်ရောက်ယှဉ်ပြိုင်ရန် ပြည်တွင်း/ ပြည်ပကုမ္ပဏီ စုစုပေါင်း(၂၅)ခု လျှောက်ထားခဲ့ပါသည်။ ၎င်းအနက် တရားဝင် သတ်မှတ်ချက်များ မပြည့်စုံသော ကုမ္ပဏီ(၁၆)ခုအား ခေါ်ယူတွေ့ဆုံခြင်းမပြုတော့ပဲ သတ်မှတ်အရည်အချင်းကိုက်ညီသော ကုမ္ပဏီ(၉)ခုကိုသာခေါ်ယူတွေ့ဆုံခဲ့ပါသည်။ ခေါ်ယူမှုမပြုခဲ့သောကုမ္ပဏီ(၁၆)ခုအား တင်ဒါစည်းမျဉ်းစည်းကမ်းပါ အချက်အလက်များမပြည့်စုံ၍ ခေါ်ယူခြင်းမပြုတော့ကြောင်းနှင့် အသေးစိတ်သိရှိလိုပါကလာရောက်တွေ့ဆုံမေးမြန်းနိုင်ပါကြောင်းဖြင့်ကုမ္ပဏီတစ်ခုချင်းစီသို့စာဖြင့်လည်းကောင်း၊တယ်လီဖုန်းဖြင့်လည်းကောင်း ဆက်သွယ်အကြောင်းကြားထားခဲ့ပြီးလည်းဖြစ်ပါသည်။

၁၀။ တင်ဒါစည်းမျဉ်းသတ်မှတ်ချက် ပြည့်စုံသောကုမ္ပဏီ (၉)ခုအား (၂၄-၇-၂၀၁၄) ရက်နေ့မှ (၂၆-၇-၂၀၁၄) ရက်နေ့ထိ တင်ဒါစိစစ်ကြီးကြပ်ရေးအဖွဲ့ရှေ့မှောက်တွင် တာဝန်ခံများကိုယ်တိုင် ကုမ္ပဏီ

တစ်ခုလျှင် (၄၅)မိနစ်ခန့် **ဆောင်ရွက်မည့် လုပ်ငန်းအစီအမံ** များအား Power Point ဖြင့် အသေးစိတ် ရှင်းလင်းတင်ပြစေခဲ့ပါသည်။ ထိုသို့ ရှင်းလင်းတင်ပြရာ၌ IT နည်းပညာရှင်များနှင့် ဘဏ်လုပ်ငန်းဆိုင်ရာ ကျွမ်းကျင်သူများမှလည်း သက်ဆိုင်သော မေးခွန်းများအားမေးမြန်း၍ အဖွဲ့စုံဆုံးဖြတ်ချက်ဖြင့် ပွင့်လင်း မြင်သာစွာ ရွေးချယ်မှုပြုလုပ်ခဲ့ပါသည်။ (**ကုမ္ပဏီအမည်စာရင်းအား နောက်ဆက်တွဲ - ခ ဖြင့် တင်ပြအပ်ပါသည်** )

၁၁။ တင်ဒါစိစစ်ရေးအဖွဲ့အနေဖြင့် လျှောက်ထားလာသည့် ကုမ္ပဏီတစ်ခုချင်း၏ နောက်ခံသမိုင်း ကြောင်းနှင့် ငွေကြေးအင်အား ခိုင်မာတောင့်တင်းမှု၊ e-Visa လုပ်ငန်းအတွက် ရင်းနှီးမြှုပ်နှံမည့် ငွေကြေး ပမာဏ၊ နိုင်ငံခြားငွေလွှဲပြောင်းပေးမည့်ဘဏ်စနစ်၊ ရာသီဥတု/သဘာဝဘေးအန္တရာယ်ကြောင့် IT နည်းပညာကို အခက်အခဲ ကြုံတွေ့မှုမရှိစေရန် ပြည်တွင်း/ ပြည်ပတို့၌ အရန်စနစ် စီစဥ်ထားရှိမှု၊ BOT စနစ်အားလက်ခံနိုင်မှု၊ ပူးတွဲဆောင်ရွက်မည့်ကာလနှင့်ကောက်ခံမည့်ဝန်ဆောင်ခနှုန်းထား၊ ဝန်ကြီးဌာန သို့ ပံ့ပိုးပေးမည့် လုပ်ငန်းဆိုင်ရာ အထောက်အကူပြုသင်တန်းများ စသည်တို့ကို တင်ပြစေခဲ့သည်။ တင်ပြချက်အပေါ် ဆက်စပ်ဝန်ကြီးဌာနများ ဖြစ်သည့် ဆက်သွယ်ရေးနှင့် သတင်းအချက်အလက် နည်းပညာဝန်ကြီးဌာန၊ ဘဏ္ဍာရေးဝန်ကြီးဌာန၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်တို့မှ ဘာသာရပ်ဆိုင်ရာ ကျွမ်းကျင်သူများ၏ အကဲဖြတ်ချက်များတို့ကို အသေးစိတ်စိစစ်ပြီး နှိုင်းယှဥ်သုံးသပ်မှုများ ပြုလုပ်ခဲ့ ပါသည်။ (**အမှတ်ပေးစနစ်အား နောက်ဆက်တွဲ - ဂ ဖြင့် တင်ပြအပ်ပါသည်** )

၁၂။ ပဏာမတင်ပြချက်အရ၌ပင် ကုမ္ပဏီအချို့သည် ရင်းနှီးမြှုပ်နှံမှုခိုင်မာမှုမရှိခြင်း၊ ဒေါ်လာငွေကြေး လွှဲပြောင်းမှု ကန့်သတ်ချက်အား လက်တွေ့ကျစွာ ကျော်လွှားနိုင်မှုမရှိခြင်း၊ IT နည်းပညာစနစ်တွင် အပြောသာရှိ၍ လက်တွေ့ဆောင်ရွက်ရာတွင် ခက်ခဲမှုရှိနိုင်ခြင်း၊ နိုင်ငံခြားသားခရီးသွားများမှ ယုံကြည်မှု မရှိသဖြင့် ခရီးသွားအရေအတွက် လျော့ကျနိုင်ခြင်း၊ သတ်မှတ်ချိန်အတွင်း ပြီးစီးအောင် ဆောင်ရွက်နိုင်မှု မရှိခြင်း၊ ငွေကြေးအကျိုးအမြတ်ကိုသာမျှော်ကိုးပြီး နိုင်ငံတော်အတွက် ရေရှည်လုပ်ငန်းအဖြစ် တာဝန်ခံ ဆောင်ရွက်လိုစိတ်မရှိခြင်းနှင့် ဆောင်ရွက်နိုင်စွမ်းမရှိခြင်းတို့ကို စိစစ်တွေ့ရှိရပါသည်။ e-Visa တင်ဒါ စိစစ်ကြီးကြပ်ရေးအဖွဲ့ဝင်များ၏ တညီတညွတ်တည်း အတည်ပြုရွေးချယ်ချက်အရ Myanmar Ease Net ကုမ္ပဏီကို e-Visa စနစ် တာဝန်ခံဆောင်ရွက်မည့် ကုမ္ပဏီအဖြစ် အောက်ပါအချက်များပေါ် မူတည်ပြီးရွေးချယ်ခဲ့ကြပါသည် -

(က) **ကုမ္ပဏီပိုင်းဆိုင်ရာတွေ့ရှိချက်များ**

(၁) Myanmar Ease Net ကုမ္ပဏီသည် တိုင်းရင်းသားပိုင် ကုမ္ပဏီဖြစ်ခြင်း၊

(၂) မန်နေဂျင်း ဒါရိုက်တာဖြစ်သူ ဦးကျော်မိုးနိုင်သည် ပြည်တွင်းတွင် ၎င်းပိုင်ကုမ္ပဏီ (၄)ခု ၊ ပြည်ပ(စင်ကာပူနိုင်ငံ)တွင် ကိုယ်ပိုင်ကုမ္ပဏီ(၁)ခု နှင့် ရှယ်ယာဝင်ထား သည့် ကုမ္ပဏီ(၁)ခုရှိခြင်း၊

(၃) မတည်ရင်းနှီးငွေ စုစုပေါင်း ကျပ်သန်းပေါင်း(၃၀၀၀၀)ဖြင့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများ လုပ်ကိုင်နေခြင်း၊

(၄) ပြည်တွင်း/ ပြည်ပ၌ ရင်းနှီးမြှုပ်နှံမှုခိုင်မာခြင်း၊ တရားဝင်ငွေဖြူဖြင့် ဘဏ်ရှင်းတမ်း (Bank Account) များ ပြသနိုင်ခြင်း၊

(၅) e-Visa လုပ်ငန်းအတွက် ရင်းနှီးမြှုပ်နှံမည့် ငွေကြေးပမာဏသည် အခြားကုမ္ပဏီများထက် (၁၀) ဆ ရင်းနှီးမြှုပ်နှံနိုင်သည့် ပမာဏရှိခြင်းနှင့် တရားဝင်ပြသနိုင်ခြင်း၊

(၆) နိုင်ငံတော်၏ လုပ်ငန်းများတွင် အနစ်နာခံ ဆောင်ရွက်ပေးသည့် အစဉ်အလာကောင်းများရှိသည့်အပြင် နိုင်ငံတော်ထံ စုစုပေါင်း အခွန်ငွေ (ကျပ်သန်း ၁၀၀၀) ပေးဆောင်ထားခြင်း၊ နိုင်ငံတော်မှ ဂုဏ်ပြုမှတ်တမ်းများရှိခြင်း၊

(၇) အမည်မည်းစာရင်းဝင်နှင့် နာမည်ပျက်စာရင်းဝင် ကုမ္ပဏီမဟုတ်ခြင်း၊

(၈) နိုင်ငံတော်မှ သတ်မှတ်ထားသည့် အချက်အလက်များနှင့် ကိုက်ညီပြီး သတ်မှတ်ကာလအတွင်း အကောင်အထည်ဖော်နိုင်ခြင်း၊

(ခ) **ဘဏ်လုပ်ငန်းပိုင်းဆိုင်ရာတွေ့ရှိချက်များ**

(၁) မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ် (MFTB) မှ ငွေစာရင်းဖွင့်လှစ်ထားသည့် စင်္ကာပူနိုင်ငံ UOB (United Oversea Bank) ဘဏ်နှင့် တရားဝင် စာချုပ်ချုပ်ဆိုဆောင်ရွက်နေခြင်း၊

(၂) UOB (United Overseas Bank) ဘဏ်သည် ၁၉၃၃ ခုတွင် စတင်တည်ထောင်သောဘဏ်ဖြစ်ပြီး မတည်ရင်းနှီးမြှုပ်နှံမှု ငွေကြေးတန်ဖိုး အမေရိကန်ဒေါ်လာ (၃.၃) ဘီလီယံရှိခြင်း၊ စင်ကာပူအစိုးရမှ ရင်းနှီးမြှုပ်နှံမှု ၃၀ ရာခိုင်နှုန်း ပါဝင်သည့်ဘဏ်ဖြစ်ခြင်း၊ International Organization for Standardization (ISO) အဖွဲ့မှ ဝန်ဆောင်မှုအကောင်းဆုံး ရွေးတံဆိပ်ဆုရရှိထားခြင်း၊ မြန်မာနိုင်ငံ၊ ရန်ကုန်မြို့တွင် ရုံးခွဲတစ်ခုဖွင့်လှစ်ထားခြင်း၊

(၃) စင်္ကာပူအစိုးရနှင့် (Semi-Government) အဖြစ် တရားဝင်တွဲဖက် ဆောင်ရွက်နေသော စင်္ကာပူအခြေစိုက် ENETS ကုမ္ပဏီအား Money Gateway အဖြစ် အသုံးပြုဆောင်ရွက်ရန် MoU ရေးထိုးထားရှိပြီးဖြစ်ခြင်း၊

(၄) ENETS ကုမ္ပဏီသည် စင်ကာပူအခြေစိုက် NET ကုမ္ပဏီ၏ ကုမ္ပဏီခွဲတစ်ခုဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှု အမေရိကန်ဒေါ်လာ (၂.၅) သန်းဖြင့် ငွေကြေး ဝန်ဆောင်မှု

လုပ်ငန်းများအား ဆောင်ရွက်ပေးလျက်ရှိခြင်း၊ ၂၀၁၃ ခုနှစ်တွင် ငွေကြေး On-Line Transition ပမာဏ အမေရိကန်ဒေါ်လာ(၂.၄)ဘီလီယံ ပြုလုပ်နိုင်ခဲ့ခြင်း၊ ၂၀၁၄ ခုနှစ်တွင်လည်း ငွေကြေး On-Line Transition ပမာဏ အမေရိကန်ဒေါ်လာ (၃.၄) ဘီလီယံပြုလုပ်နိုင်မည်ဟု ခန့်မှန်းထားခြင်း၊

(၅) ၎င်းတစ်ဦးတည်းပိုင် စင်ကာပူအခြေစိုက် Galaluz ကုမ္ပဏီမှာလည်း UOB (United Overseas Bank) ဘဏ်နှင့် ENETS ကုမ္ပဏီတို့ဖြင့် ငွေကြေးလုပ်ငန်း ချိတ်ဆက်ဆောင်ရွက်နေခြင်း၊

(၆) Galaluz ကုမ္ပဏီသည် မတည်ငွေ အမေရိကန်ဒေါ်လာ(၅) သိန်း၊ ဝန်ထမ်း (၂၀) ဖြင့် စင်ကာပူနိုင်ငံတွင် တရားဝင် အခွန်ပေးဆောင်၍ လုပ်ငန်းလုပ်ကိုင်နေခြင်း၊

(၇) ၎င်းရှယ်ယာ ပါဝင်ထားသည့် စင်ကာပူအခြေစိုက် Krislite ကုမ္ပဏီသည် စင်ကာပူ နိုင်ငံမှ အကောင်းဆုံးကုမ္ပဏီဆု ရွေးချယ်ရာ၌ ကုမ္ပဏီ (၅၀) တွင် ၂၀၁၂ ခုနှစ် တွင် အဆင့် (၃၁)၊ ၂၀၁၃ ခုနှစ်တွင် အဆင့် (၁၆) ရရှိခဲ့ခြင်း၊

(၈) အမေရိကန်ဒေါ်လာကန့်သတ်မှု (Sanction)နှင့် မည်သည့်အကြောင်းကြောင့် မဆို ဖြစ်ပေါ်လာနိုင်သည့် ငွေကြေးပြဿနာများအတွက် နိုင်ငံတော်မှ နစ်နာမှု မရှိစေရန် အစားထိုးဖြေရှင်းပေးရန် ကတိပြု၍ စာချုပ်ချုပ်ဆို ဆောင်ရွက်နိုင်ခြင်း၊

(၉) တင်ဒါစိစစ်ရေးအဖွဲ့သို့ ငွေကြေးလွှဲပြောင်းမှု တာဝန်ယူမည့် စင်ကာပူအခြေစိုက် UOB (United Overseas Bank) မှ Mr. Leonard Ang Seng Huat ကိုယ်တိုင်လာရောက်ရှင်းလင်းတင်ပြခြင်း၊

(၁၀) Money Gateway ဖြင့်တာဝန်ယူမည့် e-Nets ကုမ္ပဏီမှ လက်ထောက်တာဝန်ခံ Mr.Kenneth Ching (Asst. Vice President Regional Sales) လာရောက် ရှင်းလင်းတင်ပြခြင်း၊

(ဂ) **IT နည်းပညာပိုင်းဆိုင်ရာ တွေ့ရှိချက်များ**

(၁) အသုံးပြုမည့် စက်ပစ္စည်းကိရိယာများ (Hardware) များနှင့် Application Software များသည် လက်ရှိတွင် နိုင်ငံတကာအဆင့်မီပြီး နောင်တွင်လည်း အဆင့်မြှင့်တင်နိုင်သည့် အခြေအနေရှိခြင်း၊

(၂) ဤဝန်ကြီးဌာနတွင် Call Center ၊ e-Visa Control Center တို့ထားရှိပေး မည်ဖြစ်ပြီး၊ တာဝန်ယူဆောင်ရွက်ရန်အတွက် နိုင်ငံတကာ အတွေ့အကြုံ (၁၇) နှစ်ရှိ UK နိုင်ငံသား IT ပညာရှင်နှင့် နိုင်ငံသားပညာရှင်(၃)ဦး အပါအဝင် ဝန်ထမ်း(၇၂)ဦးဖြင့် မိမိဝန်ထမ်းများနှင့် လိုအပ်သည့် အချိန်အတိုင်းအတာအထိ တွဲဖက် ဆောင်ရွက်ရန် စီစဉ်ထားရှိခြင်း၊

(၃) စင်ကာပူနိုင်ငံတွင် စီမံခန့်ခွဲရန်အတွက်လည်း နိုင်ငံခြားသားပညာရှင်(၄)ဦး သီးခြားခန့်ထားခြင်း၊

(၄) စာချုပ်သက်တမ်းကုန်ဆုံးပြီးနောက် လွှဲပြောင်းပေးမည့် နည်းပညာပစ္စည်းများအား မိမိဝန်ကြီးဌာနမှဝန်ထမ်းများ ဆက်လက်အသုံးပြုနိုင်ရန်အတွက် ကျွမ်းကျင်သင်တန်းအဆင့်ဆင့် တာဝန်ယူပို့ချပေးရန် နိုင်ငံခြားသား/နိုင်ငံသားပညာရှင်များ စီစဉ်ထားရှိခြင်း၊

(၅) စနစ်တစ်ခုလုံးကို အနီးကပ်ကူညီပေးနိုင်ရန် e-Visa လုပ်ငန်း အတွေ့အကြုံရှိသော ဗြိတိန်၊ ပြင်သစ်နှင့် စင်္ကာပူနိုင်ငံများမှ နိုင်ငံခြားသားပညာရှင်များအား ခန့်အပ်တာဝန်ပေးခြင်းနှင့် ငှားရမ်းအသုံးပြုထားခြင်း၊

(၆) IT နည်းပညာဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် အခက်အခဲ မဖြစ်ပေါ်စေရန်နှင့် e-Visa Security System နှင့် Recovery System (အရန်စနစ်) များကို အဆင့်တိုင်းတွင် တစ်ခုစီ စီစဉ်ထားရှိခြင်း၊

(၇) ရာသီဥတု/သဘာဝဘေးအန္တရာယ် အပါအဝင် အကြောင်းအမျိုးမျိုးကြောင့် ထိခိုက်ပျက်စီးမှုများမရှိစေရေးအတွက် ပြည်တွင်း/ ပြည်ပ၌ Data Backup System ထားရှိခြင်း၊ ထိခိုက်မှုဖြစ်ပေါ်ပါက ကုမ္ပဏီအစီအစဉ်ဖြင့် တာဝန်ယူဆောင်ရွက်ပေးမည်ဟု ကတိပြုခြင်း၊

(၈) e-Visa စနစ်အား အချိန်နှင့်တစ်ပြေးညီ ဖြစ်နေစေရန်အတွက် နောက်ဆုံးပေါ်နည်းပညာများ၊ စက်ပစ္စည်းများအား သတ်မှတ်ကာလအတိုင်း လိုအပ်သလို အစားထိုးတပ်ဆင်ပေးနိုင်ခြင်း၊

(ဃ) **BOT စနစ်အရ ငွေကြေး အကျိုးအမြတ်ခွဲဝေမှု** ။ ။ ဗီဇာခနှုန်းထားနှင့်စပ်လျဉ်း၍ လက်ရှိစနစ်အရ ကမ္ဘာလှည့်ဗီဇာကို မြန်မာသံရုံးများတွင်လျှောက်ထား၍ နေခွင့်(၂၈)ရက်ဖြင့် ဗီဇာခအမေရိကန်ဒေါ်လာ (၂၀) ဒေါ်လာ ကောက်ခံလျက်ရှိပါသည်။ စနစ်သစ်ဖြစ်သော ဆိုက်ရောက်ဗီဇာ (လုပ်ငန်းဗီဇာ) အား အပြည်ပြည်ဆိုင်ရာလေဆိပ်များတွင် ဗီဇာခ အမေရိကန်ဒေါ်လာ (၅၀) ဒေါ်လာ ကောက်ခံပြီး နေခွင့်(၇၀)ရက် ခွင့်ပြုပါသည်။ ယခု e-Visa လျှောက်ထားခအဖြစ် အမေရိကန်ဒေါ်လာ (၅၀)ဒေါ်လာ လျာထားသတ်မှတ်သွားမည် ဖြစ်ပြီး၊ သင့်တင့်သော နှုန်းထားလည်း ဖြစ်ပါသည်။ တင်ဒါအောင်မြင်သော Myanmar Ease Net ကုမ္ပဏီမှအောက်ပါအတိုင်း ဗီဇာခကြေး ခွဲဝေခွင့်ပြုပါရန် တင်ပြလာခဲ့ပါသည် -

(၁) ပထမအဆင့် (၅)နှစ်၊ ဒုတိယအဆင့် (၅)နှစ်၊ စုစုပေါင်း (၁၀) နှစ်သက်တမ်း MoU သဘောတူညီမှု လက်မှတ်ရေးထိုးလိုကြောင်း အဆိုပြုကမ်းလှမ်းခဲ့ပါသည်။

ခွင့်ပြုပါက ဗီဇာကြေးဝန်ဆောင်မှုအတွက် ပထမ(၅)နှစ်အတွင်း ခရီးသည် တစ်ဦးအတွက် အမေရိကန်ဒေါ်လာ (၁၄) ဒေါ်လာနှုန်း၊ ဒုတိယ(၅)နှစ် သက်တမ်း အတွက် ခရီးသည်တစ်ဦးအတွက် အမေရိကန်ဒေါ်လာ (၁၃) ဒေါ်လာနှုန်း ခွဲဝေ ပေးရန် တင်ပြခဲ့ပါသည်။

(၂) အခြားသောကုမ္ပဏီများမှ ဝန်ဆောင်ခအဖြစ် အမေရိကန်ဒေါ်လာ (၁၂) ဒေါ်လာ နှုန်းခန့် တောင်းဆိုသဖြင့် ငွေကြေးတောင်းဆိုမှု ပမာဏအနည်းငယ်များပြား ကြောင်း တွေ့ရှိရသော်လည်း IT နည်းပညာစနစ်ခိုင်မာခြင်း၊ ဘဏ်လုပ်ငန်းစနစ် ခိုင်မာခြင်းကြောင့် နိုင်ငံတော်ဘဏ်တွင်လည်း နစ်နာမှုမရှိနိုင်ကြောင်း သုံးသပ် တွေ့ရှိရပါသည်။

၁၃။ Myanmar Ease Net ကုမ္ပဏီရရှိသည့် ဝန်ဆောင်ခ အမေရိကန်ဒေါ်လာ(၁၄) ဒေါ်လာတွင် အောက်ပါဝန်ဆောင်မှုများအတွက် အသုံးစရိတ်များ ပါဝင်မည် ဖြစ်ပါသည်-

(က) IT Infrastructure များ၊ Hardware & Software တပ်ဆင်ပေးခြင်း၊

(ခ) Online Payment နှင့် Banking Services Charges ပေးချေခြင်း၊

(ဂ) BOT ကာလအတွင်း လုပ်ငန်းကုန်ကျစရိတ်များနှင့်နှစ်စဉ်ကြေးများ (ဖုန်း၊ အင်တာနက်၊ လိုင်စင်ကြေးများ)၊

(ဃ) နိုင်ငံတကာပညာရှင်များ ငှားရမ်းခန့်ထားခြင်း၊

(င) နည်းပညာအဆင့်မြှင့်ခြင်း၊ စက်ပစ္စည်းပြုပြင်ထိန်းသိမ်းစရိတ်များ၊

(စ) သင်တန်းများပို့ချပေးခြင်းဆိုင်ရာ ကုန်ကျစရိတ်များ၊

(ဆ) (၂၄)နာရီ ပိတ်ရက်မရှိ e-Visa လျှောက်ထားခြင်းကိုဆောင်ရွက်ပေးနိုင်ရန် တာဝန်ယူခြင်း၊

၁၄။ ဆောင်ရွက်မည့်လုပ်ငန်းအစီအမံကို အောက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက် ပါမည်-

(က) e-Visa လုပ်ငန်းစဉ်အား (၁၀-၈-၂၀၁၄) ရက်နေ့တွင် **စမ်းသပ်လုပ်ငန်း** အဖြစ် စတင် ဆောင်ရွက်သွားပါမည်၊

(ခ) ဝန်ကြီးဌာနပိုင် Websiteမှ လုပ်ငန်းအစီအမံများ ကြော်ငြာခြင်း၊ ပြည်ပရှိ မြန်မာသံရုံး များ နှင့် ပြည်တွင်းရှိ နိုင်ငံခြားသံရုံးများအား အသိပေး အကြောင်းကြား သွားပါမည်။

(ဂ) လိုအပ်သော IT နည်းပညာကွန်ယက်များ တည်ဆောက်တပ်ဆင်သွားပါမည်၊

(ဃ) နှစ်ဘက်သဘောတူစာချုပ်ရေးထိုးရာတွင် ဥပဒေကြောင်းအရ ခိုင်မာစေရေး အတွက် ဥပဒေပညာရှင်များနှင့် ညှိနှိုင်း၍ ဆောင်ရွက်သွားပါမည်၊

(င) မိမိကျွမ်းကျင် ဝန်ထမ်းအား တာဝန်ခံကုမ္ပဏီ၏ ပြည်တွင်း/ ပြည်ပ ဝန်ထမ်းများဖြင့် ပူးပေါင်းဆောင်ရွက်ရန် ပြင်ဆင်ခြင်း၊ ဝန်ထမ်းအသစ်များအား သင်တန်းပေးသွားပါမည်၊

(စ) (၁-၉-၂၀၁၄) ရက်နေ့တွင် ရန်ကုန်အပြည်ပြည်ဆိုင်ရာလေဆိပ်တွင် ကမ္ဘာလှည့်ခရီးသည် တစ်မျိုးတည်းသာ e-Visa စနစ်ဖြင့် စတင်ခွင့်ပြု ဆောင်ရွက်သွားပါမည်၊

(ဆ) အရှိန်အဟုန်နှင့်ကျွမ်းကျင်မှုရလာသည်နှင့်အမျှ ပြည်တွင်းရှိ နိုင်ငံတကာလေဆိပ်များ၊ ရေဆိပ်များနှင့် နယ်စပ်ဝင်ပေါက်များသို့ တစ်ဆင့်ချင်းတိုးချဲ့ဆောင်ရွက်ခြင်းနှင့်အတူ e-Government စနစ်ကိုပါ အထောက်အကူပြုနိုင်အောင် ဆောင်ရွက်သွားပါမည်၊

(ဇ) e-Visa လျှောက်ထားခနှုန်းထားကို အမေရိကန်ဒေါ်လာ(၅၀)သတ်မှတ်၍ ပထမ(၅)နှစ်တွင် နိုင်ငံတော်မှ အမေရိကန်ဒေါ်လာ (၃၆)၊ ကုမ္ပဏီမှ အမေရိကန်ဒေါ်လာ (၁၄)၊ ဒုတိယ(၅)နှစ်တွင် နိုင်ငံတော်မှအမေရိကန်ဒေါ်လာ(၃၇)၊ ကုမ္ပဏီမှအမေရိကန်ဒေါ်လာ (၁၃) နှုန်းဖြင့် ဆောင်ရွက်သွားပါမည်၊

(ဈ) အထက်ပါအချက်များအပေါ်အခြေခံ၍ ၂၀၁၅ ခုနှစ်မကုန်မီ ဟိုတယ်နှင့်ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာန၏ ရည်မှန်းချက်ဖြစ်သော ကမ္ဘာလှည့်ခရီးသည် (၅)သန်း ဝင်ရောက်နိုင်ရေး ကြိုးပမ်းဆောင်ရွက်သွားပါမည်။

၁၅။ သို့ပါ၍ e-Visa တင်ဒါစိစစ်ကြီးကြပ်ရေးအဖွဲ့မှ အတည်ပြုရွေးချယ်မှု အပေါ်မူတည်၍ အောက်ပါအတိုင်း ဆောင်ရွက်သွားမည် ဖြစ်ကြောင်း စုစည်းထုတ်နှုတ် တင်ပြအပ်ပါသည်-

(က) ရွေးချယ်ခံရသော ကုမ္ပဏီမှာ တိုင်းရင်းသားပိုင် Myanmar Ease Net ကုမ္ပဏီ ဖြစ်ပါသည်၊

(ခ) ခရီးသည်ထံမှ ဒေါ်လာ ငွေကြေးဆိုင်ရာ တာဝန်ယူဆောင်ရွက်ပေးမည့် အဖွဲ့အစည်းမှု စင်ကာပူ အခြေစိုက် ENETS ကုမ္ပဏီ (Money Gateway) ဖြစ်ပါသည်၊

(ဂ) ခရီးသည်များထံမှ နိုင်ငံခြားငွေလွှဲပြောင်းလက်ခံ ဆောင်ရွက်ပေးမည့် ဘဏ်မှာ Myanmar Ease Net, ENets ကုမ္ပဏီတို့နှင့် စာချုပ် ချုပ်ဆိုထားပြီး ဖြစ်သည့် စင်ကာပူ အခြေစိုက် UOB (United Overseas Bank) ဖြစ်ပါသည်၊

(ဃ) e-Visa လုပ်ငန်းစဦးအား ရန်ကုန်အပြည်ပြည်ဆိုင်ရာလေဆိပ်တွင် ကမ္ဘာလှည့်ခရီးသွား ဗီဇာ (Tour Visa) တစ်မျိုးတည်းသာ ဆောင်ရွက်ရာမှ လုပ်ငန်းနိုင်နင်းမှု အပေါ်မူတည်၍ ကျန်ဗီဇာများအား တိုးချဲ့ဆောင်ရွက်သွားပါမည်၊

(င) Myanmar Ease Net ကုမ္ပဏီအား စာချုပ် ချုပ်သည့်နေ့မှစ၍ လုပ်ပိုင်ခွင့် (၁၀) နှစ် သတ်မှတ်ဆောင်ရွက်သွားပါမည်၊

(စ) e-Visa နှုန်းထားအား အမေရိကန်ဒေါ်လာ (၅၀) ကောက်ခံ၍ ပထမ (၅) နှစ်တွင် နိုင်ငံတော်မှ အမေရိကန်ဒေါ်လာ(၃၆)၊ ကုမ္ပဏီမှ အမေရိကန် ဒေါ်လာ(၁၄)၊ ဒုတိယ (၅) နှစ်တွင် နိုင်ငံတော်မှ အမေရိကန်ဒေါ်လာ(၃၇)၊ ကုမ္ပဏီမှ အမေရိကန်ဒေါ်လာ (၁၃) နှုန်းဖြင့် ဆောင်ရွက်သွားပါမည်၊

(ဆ) Myanmar Ease Net ကုမ္ပဏီအနေဖြင့် ကုန်ကျစရိတ်အားလုံးကို ၎င်းတို့မှ တာဝန်ယူပြီး ဤဝန်ကြီးဌာနနှင့် BOT စနစ် ဖြင့် ဆောင်ရွက်မည်ဖြစ်ပြီး စာချုပ်သက်တမ်း ပြီးဆုံးချိန်တွင် လုပ်ငန်းသုံး စက်၊ ပစ္စည်း၊ ကိရိယာတို့အား ဤဝန်ကြီးဌာနသို့ လွှဲပြောင်းပေးမည် ဖြစ်ပါသည်။

၁၆။ သိရှိလမ်းညွှန်မှုပြုနိုင်ပါရန် တင်ပြအပ်ပါသည်။

(ခင်ရီ)
ပြည်ထောင်စုဝန်ကြီး

မိတ္တူကို
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
နိုင်ငံတော်သမ္မတရုံး

စာအမှတ်၊ ၅၂ ( ၂ ) / ၇ / သမ္မတရုံး
ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ မေလ ၇ ရက်

သို

လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန

အကြောင်းအရာ။ e-visa စနစ်စတင် စမ်းသပ်ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်းကိစ္စ

ရည် ညွှန်း ချက်။ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၏ ၆-၄-၂၀၁၂ ရက်စွဲပါစာအမှတ်၊ ၁၈ က ၂၀၁၂ / နပတ / ၂၄၉၂ ။

နိုင်ငံခြားဧည့်သည်များ မြန်မာနိုင်ငံသို့ လာရောက်ရာတွင် လုံခြုံမှုအရ ကြိုတင်စစ်ဆေးကြည့်ရှုပြီးမှ ခွင့်ပြုပေးနိုင်သည့် အီလက်ထရွန်နစ်စနစ်အခြေခံသော ပြည်ဝင်ခွင့်ဗီဇာပုံစံ (e-visa)ကို စတင်စမ်းသပ်ဆောင်ရွက်သည့်အခါ ပထမအဆင့် ကမ္ဘာလှည့်ခရီးသည်ဗီဇာ (Tourist Visa)၊ ဒုတိယအဆင့် လုပ်ငန်းဗီဇာ (Business Visa)၊ တတိယအဆင့် လူမှုရေးဗီဇာ (Social Visa)၊ စတုတ္ထအဆင့် အခြားဗီဇာ (Other Visa) ဖြင့် ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ ထိုသို့ဆောင်ရွက်ရာတွင် e-visa များအား အဆင်ပြေချောမွေ့စွာဆောင်ရွက်နိုင်အတွက် သက်ဆိုင်ရာဝန်ကြီးဌာနများနှင့် ညှိနှိုင်းပေးပါရန်၊ ၂၆-၄-၂၀၁၂ ရက်နေ့မှ စတင်၍ စမ်းသပ်ဆောင်ရွက်ခွင့်ပြုပါရန်နှင့် e-visa ဝင်ခွင့်အတွက် လူတစ်ဦးလျှင် ဗီဇာကြေး US$ (၃၀)နှင့် ဝန်ဆောင်ခ US$ (၄၀) ရယူခွင့်ပြုပါရန် ရည်ညွှန်းစာဖြင့် တင်ပြလာခြင်းအား နိုင်ငံတော်သမ္မတမှ Tourist Visa ကို အရင်စမ်းသပ်လုပ်ကိုင်ရန် ဟု မှတ်ချက်ပြုပါသဖြင့် လိုပ်မူပါဝန်ကြီးဌာနမှ အကောင်အထည်ဖော်ဆောင်ရွက်နိုင်ပါရန် အကြောင်းကြားအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်

မိတ္တူကို

သမ္မတဦးစီးရုံး
ဒုတိယသမ္မတ(၁)ဦးစီးရုံး
ဒုတိယသမ္မတ(၂)ဦးစီးရုံး
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
ပြည်ထဲရေးဝန်ကြီးဌာန
နိုင်ငံခြားရေးဝန်ကြီးဌာန
ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်းဝန်ကြီးဌာန
ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

နိုင်ငံတော်သမ္မတရုံး

စာအမှတ်၊ ၆၄ ( ၁ ) / ၇ ./ သမ္မတရုံး

ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ ဖေဖော်ဝါရီလ ၃ ရက်

သို့

လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

အကြောင်းအရာ။ **e-Visa စနစ် အကောင်အထည်ဖော်နိုင်ရေးကိစ္စ**

ရည် ညွှန်း ချက်။ ယင်း၏ ၂၁- ၁- ၂၀၁၄ ရက်စွဲပါစာအမှတ်၊ ၁၀၀ / ၂(၃ ) (၀၄၅၄ )/ လဝန

၁။ e - Visa လုပ်ငန်းစဉ်အား တင်ဒါစနစ်ဖြင့် အကောင်အထည်ဖော် ဆောင်ရွက်မည်ဖြစ်ရာ e - Visa Online စနစ် ကို ကုမ္ပဏီတစ်ခု၊ အဖွဲ့အစည်းတစ်ခုတည်းမှ ထိန်းချုပ်ဆောင်ရွက်သည့် စနစ်မျိုး မဖြစ်စေရန်အတွက် ဘဏ်လုပ်ငန်းဆိုင်ရာ၊ နည်းပညာ လုပ်ငန်းဆိုင်ရာတို့အား ကဏ္ဍအလိုက် ခွဲခြားတင်ဒါခေါ်ယူ၍ သက်ဆိုင်ရာဝန်ကြီးဌာန နှင့် အဖွဲ့အစည်းများမှ ဘာသာရပ်ကျွမ်းကျင်သူ ပညာရှင်များပါဝင်သော တင်ဒါစိစစ်ရေးကော်မတီတစ်ရပ် ဖွဲ့စည်း ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း ရည်ညွှန်းစာဖြင့်တင်ပြလာခြင်းအား အကျိုး/အပြစ် ညှိနှိုင်းနိုင်ရန်အတွက် ပြည်ထောင်စုဝန်ကြီး မှ နိုင်ငံတော်သမ္မတထံသို့ ရှင်းလင်းတင်ပြရန် အကြောင်းကြားအပ်ပါသည်။

၂။ အဆိုပါရှင်းလင်းတင်ပြမှုသို့ ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန ၊ ဘဏ္ဍာရေးဝန်ကြီးဌာန နှင့် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနတို့မှ ပြည်ထောင်စုဝန်ကြီးများပါတက်ရောက်နိုင်ရေး ညှိနှိုင်းဆောင်ရွက်သွားရန် ဖြည့်စွက်ဖော်ပြအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်

မိတ္တူကို

သမ္မတဦးစီးရုံး

ဒုတိယသမ္မတဦးစီးရုံးများ

သမ္မတရုံးဝန်ကြီးဌာန (၄)

ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန
ဘဏ္ဍာရေးဝန်ကြီးဌာန
ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန
} မိမိဝန်ကြီးဌာနနှင့်သက်ဆိုင်သည့်ကိစ္စရပ်များအားရှင်းလင်းတင်ပြနိုင်ရန်ဖြစ်ပါသည်။

IMMIGRATION

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

စာအမှတ်၊ ၂၀၀/၁(၁-၁၆)( ၀၄၄၃)/လပန
ရက် စွဲ၊ ၂၀၁၄ ခုနှစ်၊ ဩဂုတ်လ ၂ ရက်

သို့

ဦးကျော်မိုးနိုင်
မန်နေဂျင်းဒါရိုက်တာ
Myanmar Ease Net Co,.LTD.
ရန်ကုန်မြို့။

အကြောင်းအရာ။ e-Visa လုပ်ငန်းစဉ်အတွက် အလုပ်တာဝန် အပ်နှင်းခြင်း။

၁။ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်တွင် e-Visa လုပ်ငန်းစဉ်အား ၂၀၁၄ ခုနှစ်၊ စက်တင်ဘာလ (၁) ရက်နေ့၌ စတင်အကောင်အထည်ဖော် ဆောင်ရွက်သွားမည် ဖြစ်ပါသည်။ ဤလုပ်ငန်းစဉ် အတွက် e-Visa တင်ဒါ စိစစ်ကြီးကြပ်ရေးအဖွဲ့မှ အထောက် အကူပြုအဖွဲ့များဖြင့် ပေါင်းစပ်၍ ပွင့်လင်းမြင်သာစွာဖြင့် အကဲဖြတ်စိစစ်ချက်အရ လူကြီးမင်း၏ကုမ္ပဏီ (နည်းပညာနှင့် ဘဏ်လုပ်ငန်း ပူးပေါင်း ဆောင်ရွက်မည့် စင်ကာပူ အခြေစိုက် ENETS Pte. Ltd၊ United Oversea Bank) အား မြန်မာနိုင်ငံ၏ e-Visa လုပ်ငန်းစဉ်အတွက် ဤဝန်ကြီးဌာနကွပ်ကဲမှုဖြင့် ပူးပေါင်း ဆောင်ရွက်သွားရန် အတည်ပြု ရွေးချယ်ခဲ့ပါသည်။

၂။ သို့ပါ၍ လူကြီးမင်း၏ ကုမ္ပဏီမှ တင်ပြထားရှိသော အချိန်ဇယားများနှင့် လုပ်ငန်းစဉ်များအတိုင်း ၂-၈-၂၀၁၄ ရက်နေ့မှ စတင် ဆောင်ရွက်ခွင့်ပြုသည်။

၃။ အသေးစိတ် ညှိနှိုင်းရမည့် လုပ်ငန်းများအားညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာနသို့ စဉ်ဆက်မပြတ် ဆက်သွယ် ညှိနှိုင်းဆောင်ရွက်သွားရန် ဖြစ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
(သန်းနိုင်ထွန်း၊ ရုံးအဖွဲ့မှူး)

မိတ္တူကို
ရုံးလက်ခံ
မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

စာအမှတ်။ ၁၀၀/၂(၃) ( ၄၁၃၈)/လပန
ရက်စွဲ ။ ၂၀၁၄ ခုနှစ်၊ ဇွန်လ ၂၄ ရက်

သို့

နိုင်ငံတော်သမ္မတရုံး

အကြောင်းအရာ။ **e-Visa စနစ် အကောင်အထည်ဖော် ဆောင်ရွက်ရန် တင်ပြခြင်း**

ရည် ညွှန်း ချက် ။ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန၏ ၂၁-၁-၂၀၁၄ ရက်စွဲပါ စာအမှတ် ၁၀၀/၂-၃ (၀၄၅၄)/လပန

၁။ ပြောင်းလဲလာသော နိုင်ငံတော်၏ အခြေအနေနှင့်အညီ ပြည်ပခရီးသည်များ ပြည်ဝင်ကိစ္စ စနစ်တကျ လွယ်ကူလျှင်မြန်စေရေးအတွက် ဤဝန်ကြီးဌာနမှ တာဝန်ခံဆောင်ရွက်ရန် ပြည်ထောင်စုအစိုးရအဖွဲ့ရုံး၏ ၁၀-၇-၂၀၁၂ ရက်စွဲပါစာဖြင့် လမ်းညွှန်မှုပြုခဲ့ပါသည်။ လမ်းညွှန်ချက်အရ ဤဝန်ကြီးဌာနအနေဖြင့် မြန်မာနိုင်ငံပြည်ဝင်မှုမူဝါဒ (Visa Policy in Myanmar) စီမံချက်အား ရေးဆွဲတင်ပြ၍ ခွင့်ပြုချက်ဖြင့် ဆောင်ရွက်လျက်ရှိပါသည်။

၂။ လက်ရှိအခြေအနေအရ နိုင်ငံတွင်းသို့ တရားဝင် ဝင်ရောက်ရာတွင် အပြည်ပြည်ဆိုင်ရာ လေဆိပ်၊ အပြည်ပြည်ဆိုင်ရာရေဆိပ်နှင့်နယ်စပ်ဂိတ်စသည့် နည်းလမ်း(၃)သွယ်မှတရားဝင် ပြည်ဝင် ဗီဇာ(၆)မျိုးဖြင့် ဝင်ရောက်ခွင့်ရှိပါသည်။ ပြည်ဝင်ကိစ္စများ လွယ်ကူ၊ လျှင်မြန်၊ ချောမွေ့စေရန် ပထမအဆင့်အနေဖြင့် လုပ်ငန်းဗီဇာ၊ ပြည်ဝင်ဗီဇာ၊ ဖြတ်သန်းဗီဇာ(၃)မျိုးအား (၁-၆-၂၀၁၂) ရက်နေ့မှစ၍ နိုင်ငံ(၅၁)နိုင်ငံအား အပြည်ပြည်ဆိုင်ရာလေဆိပ်များတွင် ဆိုက်ရောက်ဗီဇာ (Visa on Arrival) ခွင့်ပြုခဲ့ပြီးဖြစ်ပါသည်။ (၁-၆-၂၀၁၂) ရက်နေ့မှ (၁-၆-၂၀၁၄) ရက်နေ့အထိ (၂)နှစ်တာကာလအတွင်း အပြည်ပြည်ဆိုင်ရာလေဆိပ်(၃)ခုတွင် ဆိုက်ရောက်ဗီဇာထုတ်ပေးမှုမှာ စုစုပေါင်းဦးရေ (၁၆၁၁၁၈) ဦးရှိပြီး၊ အမေရိကန် ဒေါ်လာ (၆၇၃၇၄၀၀) ကောက်ခံရရှိပြီးဖြစ်ပါသည်။ ယခင်(၂)နှစ်တာ အချိန်ကာလတူနှင့် နှိုင်းယှဉ်ပါက နိုင်ငံတော်ရငွေ(၄)ဆကျော် ပိုမိုတိုးတက် ရရှိခဲ့ပါသည်။

၃။ မိမိနိုင်ငံတွင်းသို့ အများဆုံးဝင်ရောက်နေသော ခရီးသည်မှာ ကမ္ဘာလှည့်ခရီးသည်များ ဖြစ်ပါသည်။ သို့ရာတွင် မိမိနိုင်ငံသည် အပြည်ပြည်ဆိုင်ရာမြို့ပြလေကြောင်းအဖွဲ့အစည်း (ICAO) အဖွဲ့ဝင်ဖြစ်ပြီး၊ စနစ်၏သတ်မှတ်ချက်များကြောင့် ကမ္ဘာလှည့်ဗီဇာ(Tourist Visa) ကို ဆိုက်ရောက်ဗီဇာ(Visa On Arrival) ထုတ်ပေးရန် ဆောင်ရွက်နိုင်မှုမရှိပါ။ သို့ပါ၍ ကမ္ဘာလှည့်ဗီဇာဖြင့် ပြည်ဝင်ကိစ္စများ လွယ်ကူ၊ လျှင်မြန်၊ ချောမွေ့စေရန် ဒုတိယအဆင့်အနေဖြင့် ကမ္ဘာလှည့်ခရီးသွားများအတွက် e-Visa စနစ်ဖြင့် အစားထိုးဆောင်ရွက်ရန် ပြည်ထောင်စု အစိုးရအဖွဲ့ရုံးသို့ ၂၁-၁-၂၀၁၄ ရက်စွဲပါစာဖြင့် စီမံချက်ရေးဆွဲ တင်ပြခဲ့ပါသည်။

၄။ နိုင်ငံတော်အကြီးအကဲမှ တင်ပြချက်အပေါ် လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး အပါအဝင် ဆက်သွယ်ရေး၊ သတင်းအချက်နှင့် နည်းပညာဝန်ကြီး၊ ဘဏ္ဍာရေး ဝန်ကြီး၊ ဟိုတယ်နှင့်ခရီး သွားလာရေးလုပ်ငန်းဝန်ကြီးနှင့် ဗဟိုဘဏ် ဥက္ကဋ္ဌတို့ အား (၉-၂-၂၀၁၄) ရက်နေ့တွင် တွေ့ဆုံရှင်းလင်းတင်ပြစေပြီး ၂၀၁၄ခုနှစ်၊ စက်တင်ဘာလ(၁)ရက်နေ့ နောက်ဆုံးထား၍ အကောင်အထည်ဖော်နိုင်ရေးနှင့် ရေရှည်တွင် နည်းမျိုးစုံဖြင့် အထောက် အကူပြုနိုင်သည့် အာဆီယံနိုင်ငံ အတွင်း (အထူးသဖြင့် စင်္ကာပူနိုင်ငံ)တွင် အခြေပြုဆောင်ရွက်နေသည့် နည်းပညာအပါအဝင် ကုမ္ပဏီ များအား ရွေးချယ်ဆောင်ရွက်သင့်ကြောင်း လမ်းညွှန်မှုပြုခဲ့ ပါသည်။

၅။ e-Visa စနစ် စတင်အကောင်အထည်ဖော်ရန် စီမံသည့် အချိန်မှစ၍ တင်ပြပါနေ့အထိ e-Visa လုပ်ငန်းအတွက် ဆောင်ရွက်မည့်စနစ်များကို အာဆီယံနိုင်ငံများ၊ ဥရောပဒေသနှင့် အနောက်နိုင်ငံများမှ နည်းပညာကုမ္ပဏီများမှ ဤဝန်ကြီးဌာနသို့ လာရောက်ရှင်းလင်း ဆွေးနွေးတင်ပြခဲ့ကြပါသည်။ ထိုကဲ့သို့ ရှင်းလင်းဆွေးနွေးတင်ပြမှုများအပေါ် မူတည်၍ e-Visa စနစ် အကောင် အထည်ဖော်မည့် နည်းပညာ စနစ်၊ ငွေပေးငွေယူစနစ် စသည်တို့ကို ရွေးချယ်နိုင်ရန်အတွက် အောက်ပါအချက်များအပေါ် အခြေခံ တည်၍ စဉ်းစားရွေးချယ် သွားမည် ဖြစ်ပါသည်-

(က) **ကုမ္ပဏီပိုင်းဆိုင်ရာ အခြေခံ ထည့်သွင်းစဉ်းစားရမည့် အချက်များ**

(၁) လုပ်ငန်းအတွေ့အကြုံနှင့် သက်တမ်း၊ နောက်ခံသမိုင်းကြောင်းနှင့် ခိုင်မာမှု၊ တရားဝင်မှု၊ ဝန်ထမ်းများ၏ ပြည်တွင်း/ပြည်ပ လုပ်သက်နှင့် ကျွမ်းကျင်မှု ရှိ/မရှိ၊

(၂) ပြည်တွင်း/ပြည်ပတွင် အမည်မည်းစာရင်း (Blacklist) ရေးသွင်းခံရခြင်း ရှိ/မရှိ၊

(၃) ပြည်တွင်း၌ အခြေပြု၍ လုပ်ငန်းဆောင်ရွက်နေမှုများအပေါ် တရားဝင် အခွန်ငွေ ပေးဆောင်ထားမှု ရှိ/မရှိ၊

(၄) မတည်ရင်းနှီးငွေနှင့် လည်ပတ်နိုင်သည့် ငွေကြေးပမာဏလုံလောက်မှု ရှိ/မရှိ၊

(၅) ပြည်တွင်းလုပ်ငန်းနှင့် နိုင်ငံတကာနှင့် ဆက်စပ်ဆောင်ရွက်ခြင်းနှင့် အာမခံထား ရှိမှု ရှိ/မရှိ၊

(၆) ပြည်တွင်း/ပြည်ပ အစိုးရအဖွဲ့အစည်းများမှဖြစ်စေ၊ ခိုင်မာသော အဖွဲ့အစည်းများ မှဖြစ်စေ အသိအမှတ်ပြုထားခြင်းရှိ/မရှိ၊

(ခ) **နည်းပညာပိုင်းဆိုင်ရာ အခြေခံ ထည့်သွင်းစဉ်းစားရမည့် အချက်များ**

(၁) နည်းပညာဆိုင်ရာ ပြည်တွင်း/ပြည်ပ ပညာရှင်များ ပါဝင်မှုနှင့် လုံလောက်မှု ရှိ/မရှိ၊

(၂) ပြောင်းလဲနေသော အခြေအနေပေါ် မူတည်၍ သဘောတူညီထားသော စာချုပ်ပါ ကာလအတွင်း လိုအပ်သော နည်းပညာဆိုင်ရာ အဆင့်မြှင့်ပေးနိုင်မှု ရှိ/မရှိ၊

(၃) လိုအပ်သော Hardware, Software, Data Center၊ Web Server၊ သီးသန့် Network (VNP)နှင့် Data Base Server အဆင့်မြင့်လုံခြုံရေးစနစ်များ အပါအဝင် e-Visa Operating တစ်ရပ်လုံးအား တာဝန်ယူ/တာဝန်ခံ ဆောင်ရွက်နိုင်မှု ရှိ/မရှိ၊

(၄) On-Line Visa မှ ပေးသွင်းသော ဗီဇာအခကြေးငွေများအား အကြောင်းအမျိုးမျိုးကြောင့် ဆုံးရှုံးမှုမရှိစေဘဲ မြန်မာနိုင်ငံဗဟိုဘဏ်မှ ချမှတ်ထားသော စဉ်းမျဉ်းစည်းကမ်းများအတိုင်း လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာနသို့ ရောက်ရှိစေရေးအတွက် အာမခံသည့်စနစ် ရှိ/မရှိ၊

(၅) e-Visa လုပ်ငန်းနည်းပညာအတွက် မိမိဝန်ကြီးဌာနမှ ဝန်ထမ်းများနှင့်အတူ သဘောတူစာချုပ် သတ်မှတ်ကာလတစ်ခုအထိ လိုအပ်သော နေရာတိုင်းတွင် ပူးတွဲတာဝန်ထမ်းဆောင်နိုင်မှု ရှိ/မရှိ၊

(၆) မိမိဝန်ထမ်းများအား အနာဂတ်တွင် လုပ်ငန်းစဉ်တစ်ခုလုံး လက်လွှဲပေးနိုင်ရေးအတွက် လိုအပ်သောလုပ်ငန်းခွင်သင်တန်း၊ အဆင့်မြင့်သင်တန်း၊ ကျွမ်းကျင်သင်တန်း၊ မွမ်းမံသင်တန်းများ ဆောင်ရွက်ပေးနိုင်မှု ရှိ/မရှိ၊

(၇) ကုန်ကျစရိတ်အဝဝအား ကျခံ၍ နှစ်ဦးနှစ်ဘက်သဘောတူကာလ ပြည့်မြောက်ချိန်တွင် စနစ်တစ်ရပ်လုံးအား နိုင်ငံတော်သို့ အပြီးအပိုင် လွှဲအပ်ပေးရန် သဘောတူညီမှု ရှိ/မရှိ၊

(ဂ) ဘဏ်လုပ်ငန်းဆိုင်ရာ အခြေခံ ထည့်သွင်းစဉ်းစားရမည့် အချက်များ

(၁) ကမ္ဘာလှည့် ခရီးသွားများမှ ယုံကြည်လက်ခံသော ဘဏ်ဖြစ်နိုင်မှု ရှိ/မရှိ၊

(၂) On-line မှ ငွေပေးချေနိုင်မည့် Visa Card နှင့် Master Card များအပြင် အနာဂါတ်တွင် နိုင်ငံတကာတွင် အသုံးပြုသည့် မည်သည့်ငွေပေးချေကတ်မဆို အသုံးပြုနိုင်သည့်စနစ် ရှိ/မရှိ၊

(၃) နိုင်ငံတကာတွင် ဖြန့်ကျက်ဆောင်ရွက်နေသော နည်းပညာစနစ်များနှင့် ချိတ်ဆက်ဆောင်ရွက်နိုင်မှု အခြေအနေ ရှိ/မရှိ၊

(၄) နိုင်ငံတကာမှ ပေးချေမည့် ဒေါ်လာငွေကြေးများသည် Bank of America သို့ ဖြတ်သန်းရသည်ဖြစ်၍ ဒေါ်လာငွေကြေးလွှဲပြောင်းမှုအပေါ် ပိတ်ပင်ခြင်း (Sanction) များရှိပါက နိုင်ငံတော်နှင့်ဝန်ကြီးဌာနအတွက် အာမခံချက်ပေးနိုင်သည့် အခြေအနေ ရှိ/မရှိ၊

(၅) နိုင်ငံတကာမှ e-Visa အခကြေးငွေပေးသွင်းမှုအပေါ် စိစစ်ဆောင်ရွက် ပေးသည့် Money Gateway သည် ခိုင်မာမှုနှင့် နိုင်ငံတကာမှ အသိအမှတ်ပြုမှု ရှိ/မရှိ၊

(၆) မမျှော်မှန်းနိုင်သော နည်းပညာချို့ယွင်းမှုကြောင့် နေ့စဉ် ငွေပေး/ငွေယူ လုပ်ငန်း အပေါ် ထိခိုက်မှုမရှိစေရန် ကြိုတင်စပေါ်ငွေ တင်သွင်းခြင်း အပါအဝင် အာမခံနိုင်မှု အခြေအနေ ရှိ/မရှိ၊

(၇) e-Visa နည်းပညာလုပ်ငန်းနှင့် ဘဏ်လုပ်ငန်းသည် တစ်သီးတစ်ခြား မဖြစ်စေပဲ ဆက်စပ်ဆောင်ရွက်နိုင်မှု ရှိ/မရှိ၊

၆။ ဤဝန်ကြီးဌာနအနေဖြင့် e-Visa စနစ်တစ်ရပ် ပြည့်စုံချောမွေ့စွာ အကောင်အထည်ဖော်ရန်အတွက် ကုမ္ပဏီပိုင်းဆိုင်ရာ၊ နည်းပညာပိုင်းဆိုင်ရာ၊ ဘဏ်လုပ်ငန်းစနစ်ဆိုင်ရာ အထက်ပါ အခြေခံအချက်အလက်များ အပေါ်မူတည်၍ စဥ်းစားသုံးသပ်နိုင်ရန် လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး၊ ဗဟိုဘဏ်ဥက္ကဋ္ဌ၊ ဆက်သွယ်ရေး၊ သတင်းအချက်အလက်နှင့် နည်းပညာဝန်ကြီးဌာနမှ စက်မှုပညာရှင် များ၊ ဘဏ္ဍာရေးဝန်ကြီးဌာနမှ ဘဏ်လုပ်ငန်းဆိုင်ရာဝန်ထမ်းများ၊ ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာနတို့မှ ကိုယ်စားလှယ်များသည် (၂၁-၅-၂၀၁၄) ရက်နေ့တွင် ဤဝန်ကြီးဌာနအစည်းအဝေး ခန်းမ၌ တင်ပြလိုသည့် ကုမ္ပဏီအဖွဲ့အစည်း၏ ရှင်းလင်းမှုအား ဝိုင်းဝန်းနားထောင်ခဲ့ကြပြီး၊ လိုအပ်သည့် အချက်အလက်များအား စိစစ်မေးမြန်းဆွေးနွေးခဲ့ကြပါသည်။

၇။ ၎င်းနောက် ဤလုပ်ငန်းစဥ်တွင် ပြည်တွင်း တိုင်းရင်းသား လုပ်ငန်းရှင်များ နစ်နာမှုမရှိစေရေး အတွက် ပြည်ပငွေပေးငွေယူ ဘဏ်စနစ်ကို ဆောင်ရွက်နိုင်သည်ဟု သတင်းရရှိသည့် သမဝါယမဘဏ်၊ ကမ္ဘောဇဘဏ်၊ မြန်မာ့အရှေ့တိုင်းဘဏ်နှင့် မြန်မာ့ရှေ့ဆောင်ဘဏ်စသည့် ဘဏ်(၄)ဘဏ်မှ တာဝန်ရှိသူ များအား (၂၆-၅-၂၀၁၄)ရက်နေ့၌ ဤဝန်ကြီးဌာနအစည်းအဝေးခန်းမတွင် ရှင်းလင်းတင်ပြစေခဲ့ပါသည်။ အဆိုပါ ရှင်းလင်းပွဲသို့ မြန်မာနိုင်ငံတော်ဗဟိုဘဏ်မှ ကိုယ်စားလှယ်အဖွဲ့လည်း တက်ရောက်၍ ဘဏ် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို စိစစ်မေးမြန်းဆွေးနွေးခဲ့ကြပါသည်။ ၎င်းအပြင် ထပ်မံသိလိုသည် များအား (၃၀-၅-၂၀၁၄)ရက်နေ့မှ (၄-၆-၂၀၁၄)ရက်အထိ အချိန်ယူ၍ ၎င်းဘဏ်များသို့ မေးခွန်းများ ပေးပို့၍ ပြန်လည်ဖြေကြားစေခြင်းများကိုလည်း ဆောင်ရွက်ခဲ့ပြီးဖြစ်ပါသည်။

၈။ ပြည်တွင်းဘဏ်များဘက်မှ ရရှိသောအချက်အလက်များ ဝိုင်းဝန်းသုံးသပ်နိုင်ရန် ဘဏ္ဍာရေး ဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီးနှင့် ဗဟိုဘဏ် ဥက္ကဋ္ဌထံသို့ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံ တင်ရေးဦးစီးဌာနမှ ညွှန်ကြားရေးမှူးချုပ်နှင့်အဖွဲ့မှ (၁၁-၆-၂၀၁၄)ရက်နေ့တွင် သက်ဆိုင်ရာရုံးများသို့ သွားရောက်တွေ့ဆုံ တင်ပြဆွေးနွေး၍ သဘောထားမှတ်ချက်များ ရယူခဲ့ပါသည်။ ဤဝန်ကြီးဌာန၏ သုံးသပ်ချက်နှင့် ဆွေးနွေးရရှိချက်များအပေါ် မူတည်၍ e-Visa စနစ် အကောင်အထည်ဖော်ရာတွင် ငွေပေး/ငွေယူ လုပ်ငန်း၌ လတ်တလောတွင် ပြည်တွင်း ဘဏ် များအား အသုံးပြုရန် မသင့်သေးကြောင်း အောက်ပါအချက်အလက်များအပေါ် မူတည်၍ အကြံပြု ဆွေးနွေးခဲ့ ကြပါသည်-

(က) လတ်တလောအခြေအနေတွင် ပြည်တွင်းဘဏ်များအပေါ် နိုင်ငံတကာမှ ငွေကြေးသုံးစွဲမှုအတွက် ယုံကြည်မှု အပြည့်အဝ မရှိနိုင်သေးသဖြင့် ကမ္ဘာလှည့် ခရီးသည်များ e-Visa ဗီဇာလျှောက်ထားမှု နည်းပါးနိုင်ပြီး၊ နိုင်ငံတော်၏ ဦးတည်ရည်မှန်းချက်ကို ပြည့်ဝစွာ အကောင်အထည်ဖော်နိုင်ရန် ခက်ခဲနိုင်ကြောင်း၊

(ခ) ပြည်တွင်းရှိဘဏ်များသည် ငွေကြေးကတ်များ စစ်ဆေးရန် Money Gateway များ အသုံးပြုရာတွင် ယုံကြည်မှုနှင့် ခိုင်မာမှု အပြည့်အဝမရှိနိုင်သေးကြောင်း၊

(ဂ) လက်ရှိတွင် ပြည်တွင်းဘဏ်များသည် ဒေါ်လာငွေလွှဲပြောင်းမှုအတွက် On-Line မှ တိုက်ရိုက်ဆောင်ရွက်နိုင်ခြင်း မရှိသေးဟု သုံးသပ်ရပြီး၊ နိုင်ငံခြားဘဏ်တွင် ငွေစာရင်းတစ်ခုဖွင့်၍ ဆောင်ရွက်နေရခြင်းဖြစ်ကြောင်း၊

(ဃ) ပြည်တွင်းဘဏ်များသည် လုပ်ငန်းစဉ်တစ်ခုလုံးအား စမ်းသပ်တာဝန်ယူနိုင်သည်ဟုဆိုလျှင်တောင်မှ နည်းပညာဆိုင်ရာလုပ်ငန်းအား အပြည့်အဝခိုင်မာစွာ ဆောင်ရွက် ပေးနိုင်ခြင်းမရှိဘဲ ငွေကြေးလက်ခံ/လွှဲပြောင်းမှုတစ်ခုတည်းကိုသာ တာဝန်ယူ ဆောင်ရွက်နိုင်မည်ဖြစ်ပါသည်။ တစ်နည်းဆိုသော် ခရီးသည်များ၏ ငွေပေးချေမှု လုပ်ငန်းအပေါ်တွင်သာ ဝန်ဆောင်ခ သက်သက်ရယူနေခြင်းဖြစ်ပြီး ခရီးသည် ဝင်ရောက်မှု နည်းခြင်း/ များခြင်း နိုင်ငံတော်အတွက် လိုအပ်ချက် ပြည့်မှီခြင်း/မပြည့်မှီခြင်းကို တာဝန်ခံမှုမရှိဘဲ ဘဏ်၏ အကျိုးအမြတ်အတွက်သာ ရည်ရွယ်ဆောင်ရွက်ခြင်းမျိုး ဖြစ်နေ ကြောင်း၊

(င) ပြည်တွင်းဘဏ်များကို ရွေးချယ်ဆောင်ရွက်ပါက နည်းပညာကွန်ယက် တစ်ခုလုံး အား အကုန်ကျခံ တည်ဆောက်ထားသော ကုမ္ပဏီအနေဖြင့် BOT စနစ်ဖြင့် ဆောင်ရွက်ရမည် ဖြစ်၍ နှုန်းထားများ ညှိနှိုင်းရန် ခက်ခဲခြင်း၊ ကာလသတ်မှတ်ပေးရန် ခက်ခဲခြင်းတို့ ဖြစ်နိုင်ကြောင်း၊

(စ) ပြည်တွင်းရှိဘဏ်များသည် နိုင်ငံတကာ ငွေကြေးသုံးစွဲသူများနှင့် နည်းပညာပိုင်း ဆိုင်ရာ ချိတ်ဆက်အသုံးပြုရာတွင် အတွေ့အကြုံနည်းပါးခြင်း၊ ကိုယ်ပိုင်နည်းပညာ အသုံးမပြုနိုင်ခြင်းကြောင့် ငွေပေး/ငွေယူ ကိစ္စရပ်များအပေါ် အာမခံချက်ခိုင်မာမှုမရှိဟု သုံးသပ်ကြောင်း၊

(ဆ) ပြည်တွင်းဘဏ်များသည် နည်းပညာစနစ်ကိုပါ တွဲဖက်ဆောင်ရွက်ပေးနိုင်မှုမရှိ ကြောင်း၊

၉။ တွေ့ဆုံဆွေးနွေးချက်များအရ e-Visa လုပ်ငန်းစဉ်တွင် နည်းပညာပိုင်းနှင့် ဘဏ်လုပ်ငန်းပိုင်း (၂)ပိုင်းရှိသည့်အနက် တစ်ပိုင်းစီခွဲခြားဆောင်ရွက်ပါက အခက်အခဲရှိနိုင်ပြီး၊ တစ်ပေါင်းတစ်စည်းတည်း စုစည်းဆောင်ရွက်သင့်ကြောင်း၊ ပြည်တွင်းတိုင်းရင်းသားများအား မြှောက်စားလို၍ ငွေကြေးဝန်ဆောင်မှု လုပ်ငန်းများအတွက် ပြည်တွင်းရှိ ဘဏ်များအား အသုံးပြုပါက ဘဏ်လုပ်ငန်းကိုသာ သီးခြားဆောင်ရွက်နိုင်ပြီး၊ နည်းပညာပိုင်းဆောင်ရွက်ပေးနိုင်မှုမရှိခြင်း၊ လတ်တလောတွင် နိုင်ငံတကာယုံကြည်မှု အပြည့်အဝ မရသေး၍ ပြည်ဝင်ခွင့် လျှောက်ထားမှုနည်းပါးနိုင်ပြီး နိုင်ငံတော်ရငွေနည်းပါးနိုင်ခြင်း၊ ငွေကြေးစစ်ဆေး

မည့် (Money Gateway)များ ခိုင်မာမှုနှင့် သေချာမှု စိတ်မချရခြင်း၊ e-Visa လုပ်ငန်းစဥ်တစ်ခုလုံး အတွက် မည်သည့်တာဝန်ယူမှုမျိုးမှမပါပဲ ဗီဇာလျှောက်သည့် လူတစ်ဦးချင်းအပေါ် ဝန်ဆောင်မှု ကောက် နေသည့် သဘောမျိုးသာ ဖြစ်နေခြင်းကြောင့် ပြည်တွင်းဘဏ်များအား လတ်တလောတွင် အသုံးပြုရန် မသင့်(မသင့်)သေးကြောင်း သဘောတူညီခဲ့ကြပါသည်။

၁၀။ အထက်ပါအချက်များပေါ်မူတည်၍ ပြည်တွင်းရှိ ခိုင်မာသော ကုမ္ပဏီတာဝန်ခံအဖွဲ့အစည်းနှင့် ချိတ်ဆက်၍ စက်ဘုအခြေပြု ခိုင်မာသော နည်းပညာ ကုမ္ပဏီများ၊ ဘဏ်စနစ်များ၊ ငွေကြေးစစ်ဆေး သော Money Gateway လုပ်ငန်းများအား စနစ်တကျ ခေါ်ယူရှင်းလင်းရွေးချယ်၍ တွေ့ရှိချက်နှင့် အတည်ပြုနိုင်ရေးအတွက် ထပ်မံတင်ပြသွားမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

၂၄/၆/၂၀၁၄

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

(ဝင်းမြင့်၊ ဒုတိယဝန်ကြီး)

မိတ္တူကို

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

စာအမှတ်၊ ၁၀၀ / ၂(၃)( ၀၄၅၄ )/ လ ပ န
ရက်စွဲ ။ ၂၀၁၄ ခုနှစ်၊ ဇန်နဝါရီလ ၂၁ ရက်

သို့

နိုင်ငံတော်သမ္မတရုံး

အကြောင်းအရာ။ **e-Visa စနစ် အကောင်အထည်ဖော်နိုင်ရေးအတွက် တင်ပြအစီရင်ခံခြင်း**

၁။ ပြောင်းလဲလာသော နိုင်ငံတော်၏အခြေအနေနှင့်အညီ ပြည်ပခရီးသည်များ မြန်မာနိုင်ငံအတွင်းသို့ ဝင်ရောက်ရာတွင် လွယ်ကူလျင်မြန်စေရေးအတွက် ပြည်ဝင်ခွင့် (Visa) ကိစ္စရပ်များအား လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာနမှ တာဝန်ခံအဖြစ် တာဝန်ယူဆောင်ရွက်ရန် ပြည်ထောင်စုအစိုးရအဖွဲ့ရုံး၏ (၁၀-၇-၂၀၁၂) ရက်စွဲပါစာအမှတ် ၄၆၀/၃၀၂-ဗိဇာ၃-၁၉/အဖရ(၂၀၁၂) ဖြင့်တာဝန်ပေးအပ်ခဲ့ပါသည်။ အဆိုပါ လမ်းညွှန်ချက်အရ မိမိဝန်ကြီးဌာနအနေဖြင့် မြန်မာနိုင်ငံ၏ ပြည်ဝင်မှုမူဝါဒ (Visa Policy in Myanmar) အား စီမံချက်တစ်ရပ် ချမှတ်ရေးဆွဲတင်ပြပြီး ပြည်ဝင်စနစ် လျင်မြန်ချောမွေ့စေရေးအတွက် ဆောင်ရွက်လျက်ရှိပါသည်။ ထိုကဲ့သို့ဆောင်ရွက်ရာတွင် ပြည်ဝင်ဗီဇာ (၆)မျိုးရှိသည့်အနက် လုပ်ငန်းဗီဇာ၊ ပြည်ဝင်ဗီဇာ၊ ဖြတ်သန်းဗီဇာ (၃) မျိုးအား (၁-၆-၂၀၁၂) ရက်နေ့မှ စတင်၍ Visa On Arrival ခွင့်ပြုခဲ့ရာ နိုင်ငံ (၅၁) နိုင်ငံ ခွင့်ပြုခဲ့ပြီးဖြစ်ပါသည်။ (၁-၆-၂၀၁၂) ရက်နေ့မှ (၁၉-၁-၂၀၁၄) ရက်နေ့အထိ ရန်ကုန်အပြည်ပြည်ဆိုင်ရာလေဆိပ်နှင့် မန္တလေးအပြည်ပြည်ဆိုင်ရာလေဆိပ် တို့တွင် ဆိုက်ရောက်ဗီဇာ (Visa On Arrival) ထုတ်ပေးမှုမှာ စုစုပေါင်းဦးရေ (၆၉၉၃၉) ဦးရှိပြီး အမေရိကန်ဒေါ်လာ (၃၄၅၇၆၇၀) ကောက်ခံရရှိပြီးဖြစ်ပါသည်။

၂။ ကမ္ဘာလှည့်ခရီးသည်များအား ဆိုက်ရောက်ဗီဇာ (Visa On Arrival) ထုတ်ပေးရန် လုပ်ငန်းဆိုင်ရာ အခြားအခက်အခဲများရှိနေသောကြောင့် ဦးတည်ချမှတ်ထားသော ကမ္ဘာလှည့်ခရီးသည်အရေအတွက် ပြည့်မီစေရေးအတွက် အွန်လိုင်းစနစ်(Online System) ဖြင့် (e-Visa) ထုတ်ပေးခြင်းစနစ်ကို ဆောင်ရွက်ရမည် ဖြစ်ပါသည်။ သို့ဖြစ်ပါ၍(e-Visa)စနစ် အကောင်အထည်ဖော် ဆောင်ရွက်နိုင်ရေးကို အောက်ပါအတိုင်း အဆင့်ဆင့်ဆောင်ရွက် သွားရမည်ဖြစ်ပါသည်-

(က) ကမ္ဘာတစ်ဝှမ်းရှိ ကမ္ဘာလှည့်ခရီးသည်များမှ သက်ဆိုင်ရာနိုင်ငံရှိ မြန်မာသံရုံးသို့ ကမ္ဘာလှည့် ခရီးသည်ဗီဇာ (Tourist Visa) လျှောက်ထားရန် မလိုအပ်တော့ဘဲ Onlineမှ တစ်ဆင့် ဤဝန်ကြီးဌာနသို့ တိုက်ရိုက်လျှောက်ထားရမည် ဖြစ်ပါသည်။ လျှောက်ထားသူသည် သတ်မှတ်အခ ငွေကြေးကို Online မှတစ်ဆင့် ပေးသွင်းရမည်ဖြစ်ပြီး မိမိတို့မှ အမည်မည်းစာရင်း (Black List) စိစစ်၍ အချက်အလက်များ

ကန့်သတ်

မှန်ကန်မှုရှိလျှင် ခွင့်ပြုကြောင်း ပြန်ကြားသွားမည်ဖြစ်ပါသည်။ အချက်အလက်များ မှန်ကန်မှု မရှိလျှင် ခွင့်ပြုမည်မဟုတ်ကြောင်းနှင့် လျှောက်ထားသူ၏ ငွေကိုလည်း ပြန်လည်ထုတ်ပေးမည်မဟုတ်ကြောင်း ကြေငြာသွားပါမည်။

(ခ) လျှောက်ထားသူသည် ကမ္ဘာတစ်ဝှမ်းအသုံးပြုနေသော Master Card, Visa Card များအပါအဝင် ငွေသုံးစွဲသည့် Card များဖြင့် ဤဝန်ကြီးဌာနမှ သတ်မှတ်ထားသည့် ဘဏ်သို့ Online မှတဆင့် ငွေပေးသွင်းရမည်ဖြစ်ပါသည်။ ထိုဘဏ်မှတစ်ဆင့် မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ် (MFTB)သို့ပေးသွင်း၍ ၎င်းမှတစ်ဆင့် လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန ငွေစာရင်းခေါင်းစဉ်သို့ပေးသွင်းပြီး နိုင်ငံတော်ရငွေအဖြစ် ပြောင်းလဲဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(ဂ) လျှောက်ထားသူများမှ ပေးသွင်းသောငွေများကို ငွေလက်ကျန် ရှိ/မရှိ၊ အသုံးပြုသည့် Card အတုအစစ် စသည်တို့ စိစစ်ခွဲခြားနိုင်ရန်အတွက် နည်းပညာဆိုင်ရာ အပါအဝင် နိုင်ငံတကာအသိအမှတ်ပြု ငွေကြေးစိစစ်မှုစနစ် (Money Gateway) တစ်ခု ဆက်စပ် ထူထောင်ရမည် ဖြစ်ပါသည်။

(ဃ) အထက်ပါလုပ်ငန်းစဉ်များအတွက် မြန်မာနိုင်ငံအပေါ် အင်အားကြီးနိုင်ငံများမှ ငွေကြေးကန့်သတ် ချုပ်ချယ်မှုကိစ္စများ၊ ငွေကြေးဆိုင်ရာမူဝါဒ စည်းမျဉ်းစည်းကမ်းများကို ပြည်တွင်း ပြည်ပ ပညာရှင်များ၊ ဘဏ်လုပ်ငန်းရှင်ကြီးများ၊ ဗဟိုဘဏ်မှ တာဝန်ရှိသူများနှင့် အကြိမ်ကြိမ် တွေ့ဆုံဆွေးနွေး ညှိနှိုင်းထားရှိပြီးဖြစ်ပါသည်။

(င) e-Visa စနစ်ကိုဆောင်ရွက်ရာတွင် အပြည်ပြည်ဆိုင်ရာ လေဆိပ်၊ ရေဆိပ် ဝင်/ထွက် ပေါက်များအပြင် နယ်စပ် ဝင်/ထွက်ပေါက်များမှ ဝင်ရောက်လာသူများ အားလုံးကိုပါ အချိန်နှင့်တပြေးညီ သိရှိဆောင်ရွက်နိုင်ရေးအတွက် နည်းပညာများဖြင့် လုံခြုံမှုစနစ်ကိုပါ တစ်ပါတည်း ဆက်စပ်ထည့်သွင်း အသုံးပြု၍ ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(စ) ၎င်းစနစ်များသည် ငွေကုန်ကြေးကျ များသည့်အတွက် နိုင်ငံတော်ဘဏ္ဍာငွေမှ တောင်းခံ သုံးစွဲခြင်းမပြုဘဲ တင်ဒါစနစ်ဖြင့်ဆောင်ရွက်၍ B.O.T စနစ်ဖြင့် လုပ်ကိုင်သွားနိုင်ရန်လည်း စီမံဆောင်ရွက်သွားပါမည်။

၃။ သို့ဖြစ်ပါ၍ နိုင်ငံတော်၏ မျှော်မှန်းထားသော နိုင်ငံခြားသား ကမ္ဘာလှည့်ခရီးသွားလုပ်ငန်း ဖွံ့ဖြိုးတိုးတက်စေရေး၊ ပြည်ဝင်/ပြည်ထွက်စနစ်များ အဆင်ပြေချောမွေ့စေရေးနှင့် ဘဏ်လုပ်ငန်းစနစ်များ မှန်ကန်ခိုင်မာစေရေးတို့အတွက် (e-Visa) လုပ်ငန်းစဉ်အား တင်ဒါစနစ်ဖြင့် အကောင်အထည်ဖော်

သွားမည်ဖြစ်ပါသည်။ (e-Visa) Online စနစ်အား ကုမ္ပဏီတစ်ခု၊ အဖွဲ့အစည်းတစ်ခုတည်းမှ ထိန်းချုပ်ဆောင်ရွက်သည့်စနစ်မျိုး မဖြစ်စေရန်အတွက် ဘဏ်လုပ်ငန်းဆိုင်ရာ၊ နည်းပညာလုပ်ငန်းဆိုင်ရာ စသည်တို့အား ကဏ္ဍအလိုက် ခွဲခြားတင်ဒါခေါ်ယူ၍ သက်ဆိုင်ရာဝန်ကြီးဌာနနှင့် အဖွဲ့အစည်းများမှ ဘာသာရပ်ကျွမ်းကျင် ပညာရှင်များပါဝင်သော တင်ဒါစိစစ်ရေးကော်မတီတစ်ရပ် ဖွဲ့စည်းဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း သိရှိလမ်းညွှန်မှုပြုနိုင်ပါရန် တင်ပြအပ်ပါသည်။

၆၂၂၁

( ခင်ရီ )
ပြည်ထောင်စုဝန်ကြီး

မိတ္တူကို
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
ရုံးလက်ခံ
မျှော



D:\2014 Enterprise (SEC1)\100-2(3)\Visa\Visa 20-1-2014.doc

MYANMAR EaseNet

MYANMAR EASE NET Co. Ltd. No.3, Kanbe Road, Yankin Township, Yangon, Myanmar. Phone: -95 (1) 8550961 E-mail: headoffice@myanmareasenet.com, Website: www.myanmareasenet.com

စာအမှတ်၊ မသက-၀၀၃/၂၀၁၅(၉၉)

ရက်စွဲ၊ ၂၀၁၅ခုနှစ်၊ ဒီဇင်ဘာလ(၂၉)ရက်

သို့

ပြည်ထောင်စုဝန်ကြီး

လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

အကြောင်းအရာ။ ။ Online eVisa လုပ်ငန်းကို BOTစနစ်ဖြင့် စာချုပ်ချုပ်ဆိုလုပ်ပိုင်ခွင့်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုချက်ရယူနိုင်ရန်တင်ပြခြင်း။

အထက်အကြောင်းအရာပါကိစ္စအရ ကျွန်တော်များ Myanmar Ease Net Co., Ltd ကုမ္ပဏီနှင့် လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာနတို့သည် Online eVisa စနစ်ကို BOTစနစ်ဖြင့် (၁၀)နှစ်သက်တမ်းရှိ စာချုပ်ကို(၁.၉.၂၀၁၄)တွင်ချုပ်ဆိုပြီးဖြစ်ပါသည်။

သို့ဖြစ်ပါ၍ ကျွန်တော်များ Myanmar Ease Net Co., Ltd ကုမ္ပဏီ အနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေများနှင့်အညီ BOTစနစ်ဖြင့် လုပ်ငန်းဆောင်ရွက်နိုင်ရန် အတွက် လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာနအနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ လုပ်ကိုင်ခွင့်ပြုနိုင်ရန်အတွက် ညှိနှိုင်း အကြောင်းကြားပေးပါရန် လေးစားစွာတင်ပြ အပ်ပါသည်။

ပူးတွဲ - ကော်မရှင်တင်ပြရန် မူကြမ်းတစုံ

လေးစားစွာဖြင့်

ကျော်မိုးနိုင်

မန်နေဂျင်းဒါရိုက်တာ

Myanmar Ease Net Co., Ltd

MYANMAR
EaseNet

YANMAR EASE NET Co., Ltd, No.3, Kenbe Road Yankin Township, Yangon, Myanmar. Phone: +95 (1) 8550961 E-mail: headoffice@myanmareasenet.com, Website: www.myanmareasenet.com

MYANMAR EASE NET CO., LTD. No.___ Date___

စာအမှတ်၊ မသက-၀၀၃/၂၀၁၅ (၉၀)

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ အောက်တိုဘာလ(၁၃)ရက်

သို့

ညွှန်ကြားရေးမှူးချုပ်

လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန

အကြောင်းအရာ။ ။ Online eVisa လုပ်ငန်းကို BOTစနစ်ဖြင့် စာချုပ်ချုပ်ဆိုလုပ်ပိုင်ခွင့်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုချက်ရယူနိုင်ရန် တင်ပြခြင်း။

အထက်အကြောင်းအရာပါကိစ္စအရ ကျွန်တော်များ Myanmar Ease Net Co., Ltd ကုမ္ပဏီနှင့် လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာနတို့သည် Online eVisa စနစ်ကို BOT စနစ်ဖြင့် (၁၀)နှစ်သက်တမ်းရှိ စာချုပ်ကို (၁.၉.၂၀၁၄)တွင် ချုပ်ဆိုပြီးဖြစ်ပါသည်။

သို့ဖြစ်ပါ၍ ကျွန်တော်များ Myanmar Ease Net Co., Ltd ကုမ္ပဏီအနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေများနှင့်အညီ BOTစနစ်ဖြင့် လုပ်ငန်းဆောင်ရွက်နိုင်ရန် အတွက် လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာနအနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ လုပ်ကိုင်ခွင့်ပြုနိုင်ရန်အတွက် ညှိနှိုင်း အကြောင်းကြားပေးပါရန် လေးစားစွာ တင်ပြအပ်ပါသည်။

ပူးတွဲ - ကော်မရှင်တင်ပြရန် မူကြမ်းတစုံ

လေးစားစွာဖြင့်

(signed)

ကျော်မိုးနိုင်

မန်နေးဂျင်းဒါရိုက်တာ

Myanmar Ease Net Co.,Ltd

မိတ္တူကို

- ညွှန်ကြားရေးမှူး (လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန)
- ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန
လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန

စာအမှတ်၊ ၁၀၂ /လ-၆( ၂၉၉၄ )စီမံ / လဝက
ရက်စွဲ ၊ ၂၀၁၄ ခုနှစ်၊ ဒီဇင်ဘာလ ၂၁ ရက်

သို့

အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အကြောင်းအရာ။ On Line eVisa လုပ်ငန်း အတွက် Myanmar Ease Net ကုမ္ပဏီ နှင့် BOT စနစ်ဖြင့် စာချုပ်ချုပ်ဆို လုပ်ကိုင်ခွင့် ပြုနိုင်ပါရန် ညှိနှိုင်း အကြောင်းကြားခြင်း

၁။ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာနသည် On Line eVisa လုပ်ငန်း အတွက် Myanmar Ease Net ကုမ္ပဏီနှင့် BOT စနစ်ဖြင့် ၁၀ နှစ်သက်တမ်းရှိ စာချုပ်ချုပ်ဆို ဆောင်ရွက်မည် ဖြစ်ပါသည်။

၂။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေများနှင့်အညီ BOT စနစ်ဖြင့် လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် Myanmar Ease Net ကုမ္ပဏီနှင့်ချုပ်ဆိုမည့် သဘောတူပဋိညာဉ် စာချုပ် (မူကြမ်း) ပူးတွဲ၍ စာချုပ်ချုပ်ဆိုလုပ်ကိုင်ခွင့်ပြုနိုင်ပါရန် ညှိနှိုင်းအကြောင်းကြားအပ်ပါသည်။

ပူးတွဲ - Myanmar Ease Net ကုမ္ပဏီနှင့်ချုပ်ဆိုမည့် စာချုပ် (မူကြမ်း)

(မောင်မောင်သန်း)
ညွှန်ကြားရေးမှူးချုပ်

မိတ္တူကို
ရုံးလက်ခံ
မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ ၉၅၁ ၆၅၈၁၃၁ ၊၆၅၇၈၉၂
🖷 ၉၅၁ ၆၅၈၁၃၉

စာအမှတ်၊ ရက- ၆/ ၁ /၂၀၁၄ ( ၀၁၉၃ )
ရက်စွဲ၊ ၂၀၁၄ ခုနှစ် ဒီဇင်ဘာလ ၃ ရက်

သို့

ပြည်ထောင်စုဝန်ကြီးရုံး
လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

အကြောင်းအရာ။ သဘောထားမှတ်ချက် ပြန်ကြားပေးရန် ကိစ္စ

ရည် ညွှန်း ချက် ။ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန ၏ ၁၃-၁၁-၂၀၁၄ ရက်စွဲပါ စာအမှတ် ၊ ၁၀၂/လ-၆(၂၆၆၈)စီမံ/လဝက

၁။ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန နှင့် Myanmar Ease Net ကုမ္ပဏီ တို့အကြား eVisa လုပ်ငန်းအတွက် BOT စနစ်ဖြင့် ၁၀ နှစ်သက်တမ်းရှိ စာချုပ် ချုပ်ဆိုမည့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူခွင့်ပြုချက် ရယူရန် လိုအပ်ခြင်း ရှိ/မရှိ ပြန်ကြားပေးပါရန် လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာနမှ ရည်ညွှန်းပါစာဖြင့် ပေးပို့လာပါသည်။

၂။ အဆိုပါ ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မဖြစ်မနေ တင်ပြရန် မလိုပါကြောင်း ပြန်ကြားအပ်ပါသည်။

( အောင်နိုင်ဦး)
အတွင်းရေးမှူး

မိတ္တူကို

လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန
ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန
ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

စာအမှတ်၊ ရက- ၄/မ-၁၄၁၂/၂၀၁၅( ၀၀၆ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဇန်နဝါရီ လ ၈ ရက်

☎ -၀၁-၆၅၈၁၂၉

သို့

ညွှန်ကြားရေးမှူးချုပ်
လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန

အကြောင်းအရာ ။ Online eVisa လုပ်ငန်းအတွက် Myanmar Ease Net Co., Ltd. နှင့် B.O.T စနစ်ဖြင့် စာချုပ် ချုပ်ဆိုလုပ်ကိုင်ခွင့်ပြုရန် တင်ပြခြင်းအား အကြောင်းပြန်ကြားခြင်း

ရည်ညွှန်းချက် ။ လူဝင်မှု ကြီးကြပ်ရေး နှင့် အမျိုးသား မှတ်ပုံတင်ရေး ဦးစီးဌာန၏ (၃၁-၁၂-၂၀၁၄) ရက်စွဲပါ စာအမှတ်၊ ၁၀၂/လ-၆(၂၉၆၄)စီမံ/လဝက

၁။ လူဝင်မှု ကြီးကြပ်ရေး နှင့် အမျိုးသား မှတ်ပုံတင်ရေး ဦးစီးဌာနနှင့် Myanmar Ease Net Co., Ltd. တို့သည် Online eVisa လုပ်ငန်းအတွက် B.O.T စနစ်ဖြင့် စာချုပ်ချုပ်ဆို ဆောင်ရွက်လုပ်ကိုင်လိုပါကြောင်း ရည်ညွှန်းပါ စာဖြင့် စာချုပ်(မူကြမ်း)ပူးတွဲ၍ တင်ပြလာပါသည်။

၂။ အဆိုပါ ကိစ္စနှင့်စပ်လျဉ်း၍ နှစ်ဦးနှစ်ဘက် ချုပ်ဆိုသည့် စာချုပ်မူကြမ်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြရန် မလိုအပ်ပါကြောင်းနှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ လုပ်ငန်းဆောင်ရွက်လိုပါက မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အောက်ဖော်ပြပါ အချက်အလက်များ ပြုစုပြီး တင်ပြနိုင်ပါသည်-

(က) ပြည့်စုံသော အဆိုပြုချက် ပြုစု၍ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာနမှတစ်ဆင့် တင်ပြပေးရန်။

(ခ) အဆိုပါ အဆိုပြုချက်နှင့်အတူ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန၊ လူဝင်မှု ကြီးကြပ်ရေးနှင့် အမျိုးသား မှတ်ပုံတင်ရေး ဦးစီးဌာနနှင့် B.O.T စနစ်ဖြင့် လုပ်ငန်း ဆောင်ရွက်ရေးအတွက် ပြည်ထောင်စုရှေ့နေချုပ်ရုံး သဘောထားနှင့်အညီ ပြုစုထားသည့် စာချုပ် (မူကြမ်း)များ နှင့် ပြည်ထောင်စုရှေ့နေချုပ်ရုံး သဘောထား မှတ်ချက် တင်ပြပေးရန်။

၃။ သို့ဖြစ်ပါ၍ ကော်မရှင်သို့ အဆိုပြုချက် တင်ပြလိုပါက တင်ပြနိုင်ပါကြောင်းနှင့် တင်ပြခြင်း မပြုလိုပါက သက်ဆိုင်ရာ ဝန်ကြီးဌာန၏ အစီအစဉ်ဖြင့် ဆက်လက် ဆောင်ရွက်သွားရန် ပြန်ကြား အပ်ပါသည်။

ဉက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
- ပြည်ထောင်စုဝန်ကြီးရုံး
- လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန
- Myanmar Ease Net Co., Ltd.
- ရုံးလက်ခံ / မျှောစာတွဲ

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပြည်ထောင်စုရှေ့နေချုပ်ရုံး

နေပြည်တော်

စာအမှတ်၊ ၂(၅) ၃ - ၁၄၁ / နပတ(၉၇၀)

ရက်စွဲ၊ ၂၀၁၄ ခုနှစ် ၊ နိုဝင်ဘာလ ၁၄ ရက်

အကြောင်းအရာ။ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာနနှင့် Myanmar Ease Net Co., Ltd တို့ Online- e-Visa System လုပ်ငန်းအတွက် ချုပ်ဆိုမည့် စာချုပ် (မူကြမ်း) အပေါ် သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ

ရည် ညွှန်း ချက် ။ (၁) လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန၏ ၄-၁၁-၂၀၁၄ ရက်စွဲပါစာအမှတ်၊ ၁၀၀/ ၂(၃) (၈၃၉၄)/ လပန

(၂) လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန၏ ၉-၁၀-၂၀၁၄ ရက်စွဲပါစာအမှတ်၊ ၁၀၀/ ၂(၃) (၇၆၉၇)/ လပန

(၃) ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ ၂၁-၁၀-၂၀၁၄ ရက်စွဲပါစာအမှတ်၊ ၂(၅) ၃ - ၁၄၁ / နပတ( ၈၇၀ )

၁။ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာနနှင့် တင်ဒါအောင်မြင်သော Myanmar Ease Net Co., Ltd တို့ အကြားချုပ်ဆိုမည့် Online - e-Visa System လုပ်ငန်းဆောင်ရွက်မည့် စာချုပ်(မူကြမ်း) အပေါ် သဘောထားမှတ်ချက်ပေးပါရန် ရည်ညွှန်းချက်(၁)ပါစာဖြင့် ပေးပို့လာသောကိစ္စဖြစ်ပါသည်။

၂။ အထက်အပိုဒ် အကြောင်းအရာပါ စာချုပ်(မူကြမ်း)အား ရည်ညွှန်းချက်(၂)ပါစာဖြင့် သဘောထား မှတ်ချက်တောင်းခံခဲ့၍ ဤရုံးမှ ရည်ညွှန်းချက်(၃)ပါစာဖြင့် အကြံပြုပြန်ကြားခဲ့ပါသည်။ ယင်းအကြံပြုချက်နှင့်အညီ ပြင်ဆင်ဖြည့်စွက်ပြီးဖြစ်သဖြင့် ၄င်းစာချုပ်(မူကြမ်း)ကို

လျှို့ဝှက်

ဥပဒေအကြံပြုချက်ပေးပါရန် ရည်ညွှန်းချက်(၁)ပါစာဖြင့် ထပ်မံပေးပို့လာခြင်းဖြစ်ကြောင်းတွေ့ရပါသည်။

၃။ ပေးပို့လာသော စာချုပ် (မူကြမ်း) အပေါ် ဥပဒေရှုထောင့်မှ လေ့လာစိစစ်၍ အောက်ပါအတိုင်း အကြံပြုပြန်ကြားအပ်ပါသည် -

(က) စာချုပ် (မူကြမ်း) စာချုပ်ဝင်အပိုဒ်တွင် ယခုစာချုပ်အား ကိုယ်စားပြုချုပ်ဆိုမည့်သူများ၏ အမည်၊ ရာထူးတို့ကို စာချုပ်ချုပ်ဆိုချိန်တွင် ဖြည့်စွက်ဖော်ပြပြီးဖြစ်ရန်လိုအပ်ပါသည်၊

(ခ) စာချုပ်(မူကြမ်း) အပိုဒ် ဖ-က လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ တာဝန်များတွင် အခြားဝန်ကြီးဌာနများမှ ဆောင်ရွက်ပေးရမည့်ကိစ္စရပ်များအားဖော်ပြထားရာ သက်ဆိုင်ရာဝန်ကြီး ဌာနများနှင့် ကြိုတင်ညှိနှိုင်းထားသင့်ပါသည်၊

(ဂ) စာချုပ် (မူကြမ်း) ဖ-ဃ(မူလ) တွင် တင်ဒါအဆိုပြုလွှာတင်ပြစဉ် ပါဝင်သည့်နောက်ဆက်တွဲပါဖော်ပြချက်အတိုင်း အချက်အလက်များကို စည်းကမ်းချက်များအဖြစ်သတ်မှတ်ကြောင်းနှင့် အပိုဒ် ၂ဖ(ခ)တွင် "------- တင်ဒါအဆိုပြုလွှာတင်ပြသည့်အထောက်အထားများသည် ဤစာချုပ်၏အစိတ်အပိုင်းများဖြစ်ကြောင်း" ဖော်ပြထားရာ တင်ဒါအဆိုပြုလွှာပါအချက်များကို ဤစာချုပ်တွင် စည်းကမ်းချက်များအဖြစ် ဖော်ပြသင့်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ် ဖ-က-၃(မူလ)တွင် "ပူးတွဲ(၁)တွင် -------လိုအပ်သလို သုံးစွဲခွင့်ပေး၍" ဟုဖော်ပြထားရာ ပူးတွဲ(၁)မှာ စာချုပ်(မူကြမ်း)တွင် ပူးတွဲပါရှိခြင်းမရှိပါ။ ထို့အပြင် ဖော်ပြချက်မှာ ရှင်းလင်းမှုမရှိဟုယူဆပါသဖြင့် ဌာနမှပြန်လည်စိစစ်သင့်ပါသည်။ ပူးတွဲ(၁)တွင် ဖော်ပြထားချက်များမှာ

<u>လျှို့ဝှက်</u>



စာချုပ်ပါစည်းကမ်းချက်နှင့် ညီညွတ်ခြင်းရှိ မရှိ ဌာနမှတာဝန်ယူ စိစစ်ရန်ဖြစ်ပါသည်၊

(င) စာချုပ်(မူကြမ်း)အပိုဒ် ၆-င-၁(မူလ) တွင် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူမှ Online Payment ပေးချေနိုင်ရန်အတွက် နိုင်ငံတကာက ယုံကြည်စိတ်ချရသော Online Payment စနစ်များဖြင့် တာဝန်ယူဆောင်ရွက်နိုင်သည့် ဝန်ဆောင်မှုအားချိတ်ဆက်အသုံးပြုရန် စင်္ကာပူနိုင်ငံရှိသတ်မှတ်ထားသော ကုမ္ပဏီများနှင့် သဘောတူညီချက်များ ရရှိစေရေးကို စာချုပ်မချုပ်ဆိုမီ ဆောင်ရွက်ထားပြီးဖြစ်သင့်ပါသည်၊

(စ) စာချုပ်(မူကြမ်း)အပိုဒ် ၁၅ တွင် ဘဏ်အာမခံထားရှိခြင်းနှင့် စပ်လျဉ်း၍ "ဘဏ်အာမခံအဖြစ် (၇)ရက်တစ်ပတ်လျှင် ------- ကို လုပ်ငန်းဆောင်ရွက်စဉ်ကာလအတွင်း ပေးသွင်းရန်နှင့် ------- ခရီးသည်တိုးတက်များပြားဝင်ရောက်မှုအပေါ်မူတည်၍ ထပ်မံတိုးမြှင့်သတ်မှတ်ရန်" ဖော်ပြထားကြောင်းတွေ့ရှိရပါသည်။ ဘဏ်အာမခံ၏သဘောသဘာဝမှာ လုပ်ငန်းဆောင်ရွက်သူအနေဖြင့် လုပ်ငန်းဆောင်ရွက်နိုင်ခြင်းမရှိပါက အဆိုပါဘဏ်အာမခံငွေအားသိမ်းယူရန်အတွက် ဘဏ်၌အာမခံထားခြင်းဖြစ်ပါသည်။ သို့ဖြစ်ပါ၍ ဌာနအနေဖြင့် ဘဏ်အာမခံထားရှိခြင်းစည်းကမ်းချက်နှင့်စပ်လျဉ်း၍ ပြန်လည်စိစစ်သင့်ပါသည်။ထို့ပြင် အာမခံထားရှိမည့်ဘဏ်အား စာချုပ်၏ စည်းကမ်းချက်တွင်ထည့်သွင်းဖော်ပြရန်နှင့် အဆိုပါဘဏ်မှ တရားဝင်သတ်မှတ်ထားသော ဘဏ်အာမခံပုံစံတို့ကို စာချုပ်တွင်နောက်ဆက်တွဲအဖြစ် ထည့်သွင်းဖော်ပြရန်လိုအပ်ပါသည်၊

<u>လျှို့ဝှက်</u>

(ဆ) စာချုပ်(မူကြမ်း)အပိုဒ် ၂၅ တွင် "သဘောတူချုပ်ဆိုထားသော ကာလကုန်ဆုံး၍ သက်တမ်းတိုးမြှင့်ခြင်းမရှိတော့ပါက" ဟု ဖော်ပြထားသော်လည်း စာချုပ်တွင် စာချုပ်သက်တမ်းတိုးခြင်းနှင့်စပ်လျဉ်း၍ စည်းကမ်းချက်ဖော်ပြထားသည်ကို မတွေ့ရှိရပါ။ စာချုပ် သက်တမ်းကုန်ဆုံးပါက သက်တမ်းတိုးလျှင် တစ်ကြိမ်လျှင်နှစ်မည်မျှစီဖြင့်အကြိမ်ရေမည်မျှကိုမည်သူ၏အတည်ပြုချက်ဖြင့်တိုးမြှင့်နိုင်သည်ကို သီးခြားခေါင်းစဉ်ဖြင့် ဖော်ပြသင့်ပါသည်။ ဌာနမှပြန်လည်စိစစ်ရန် ဖြစ်ပါသည်၊

(ဇ) လိုအပ်သောနေရာအချို့တွင် မင်နီဖြင့် ပြင်ဆင်၊ ဖြည့်စွက်ပေးလိုက်ပါသည်။

၄။ စာချုပ်(မူကြမ်း)မှာ ကျွမ်းကျင်မှုနှင့် အဓိကသက်ဆိုင်ကြောင်းတွေ့ရှိရ၍ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် စာချုပ်မချုပ်ဆိုမီ ကြိုတင်ညှိနှိုင်းဆောင်ရွက်သင့်ပါသည်။

၅။ ဤ စာချုပ်(မူကြမ်း) ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရသာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့်မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာ ကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းရန် အကြံပြုပါသည်။

၆။ Myanmar Ease Net Co., Ltd သည် ဥပဒေအရ တရားဝင်ဖွဲ့စည်းထားသည့် ကုမ္ပဏီဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်နိုင်ခွင့်နှင့် လုပ်ကိုင်နိုင်စွမ်းရှိ မရှိ၊ ငွေကြေးအင်အားပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင်လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်းခံရသူဟုတ် မဟုတ် စသည်တို့ကို ကြိုတင် စိစစ်ရန် လိုအပ်မည်ဖြစ်ပါသည်။

၇။ စာချုပ် (မူကြမ်း) ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံးသို့ မိတ္တူ (၃) စောင် ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၈။ ဤ အကြံပြုချက်ကို လျှို့ဝှက်အဆင့် သတ်မှတ်ဆောင်ရွက်ရန် ဖြစ်ပါသည်။

၁၄/၁၁/၂၀၁၄

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)

( မေသီလင်း ၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန

မိတ္တူ - ရုံးလက်ခံ

- မျှောစာတွဲ

IMMIGRATION

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

စာအမှတ်၊ ၁၀၀ / ၂ ( ၃ )( ၇၆၉၇ ) / လ ပ န

ရက်စွဲ ၊ ၂၀၁၄ ခုနှစ်၊ အောက်တိုဘာလ ၉ ရက်

သို့

ပြည်ထောင်စုရှေ့နေချုပ်

ပြည်ထောင်စုရှေ့နေချုပ်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ရေးကိစ္စ**

၁။ နိုင်ငံတော်အကြီးအကဲ၏ လမ်းညွှန်ချက်အရ ၂၀၁၄-၂၀၁၅ ခုနှစ်အတွင်း မြန်မာနိုင်ငံအတွင်းသို့ ကမ္ဘာလှည့်ခရီးသည် အရေအတွက်ပြည့်မီရေးနှင့် လွယ်ကူလျင်မြန်စွာ ဝင်ရောက်နိုင်စေရန် Online Visa (ခေါ်) e-Visa စနစ်အား ၂၀၁၄ ခုနှစ်၊ စက်တင်ဘာလ (၁) ရက်နေ့တွင် စတင်အကောင်အထည်ဖော်နိုင်ရေးအတွက် တာဝန်ခံဆောင်ရွက်မည့် နည်းပညာ/ဘဏ်လုပ်ငန်းဆိုင်ရာကုမ္ပဏီအားရွေးချယ်နိုင်ရန် နိုင်ငံပိုင်သတင်းစာများတွင် အိတ်ဖွင့်တင်ပြလွှာဖြင့် လုပ်ငန်းအစီအမံများအား တင်ပြလျှောက်ထားစေခဲ့ပါသည်။

၂။ အဆိုပါ လျှောက်ထားတင်ပြလွှာများအနက်မှ ကုမ္ပဏီ (၉)ခုသည် စည်းကမ်းချက်များနှင့်ကိုက်ညီသည့်အတွက် တင်ဒါစနစ်ဖြင့် ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်၊ ဘဏ္ဍာရေးဝန်ကြီးဌာနနှင့် မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်တို့မှ ကျွမ်းကျင်သူ ပညာရှင်များပါဝင်သော အထောက်အကူပြုသူများနှင့် တင်ဒါစိစစ်ကြီးကြပ်ရေးအဖွဲ့သည် ၎င်းတို့၏ တင်ပြမှုအပေါ် စိစစ်အကဲဖြတ်ဆောင်ရွက်ခဲ့ပါသည်။

၃။ အဆိုပါ ကုမ္ပဏီများအနက်မှ သတ်မှတ်အရည်အချင်းများနှင့် ကိုက်ညီပြီး၊ လုပ်ငန်းကဏ္ဍအလိုက် အကောင်အထည်ဖော်နိုင်မှုနှင့် e-Visa စနစ်တစ်ခုလုံးအတွက် ရေရှည်တာဝန်ခံဆောင်ရွက်မည့် နည်းပညာနှင့် ဘဏ်လုပ်ငန်းစနစ် တစ်ပေါင်းတစ်စည်းတည်း (One Package) ပါဝင်သော Myanmar Ease Net Co., Ltd အား အတည်ပြုရွေးချယ်ခဲ့ပြီး၊ ၂၀၁၄ ခုနှစ်၊ ဩဂုတ်လ (၁၀) ရက်နေ့မှ စမ်းသပ်ကာလအဖြစ် ဆောင်ရွက်စေခဲ့ပြီး ၂၀၁၄ ခုနှစ်၊ စက်တင်ဘာလ (၁) ရက်နေ့တွင် e-Visa စနစ် စတင်ဆောင်ရွက်နေပြီဖြစ်ကြောင်း အခမ်းအနားပြုလုပ်ခဲ့ပြီးဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာနမှ ရွေးချယ်တာဝန်ပေးခံရသော Myanmar Ease Net Co., Ltd နှင့် နှစ်ဦးနှစ်ဖက်သဘောတူချုပ်ဆိုမည့် သဘောတူစာချုပ်အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံးမှ သဘောထားမှတ်ချက်အား ဆောလျင်စွာ ပြန်ကြားပေးနိုင်ပါရန် ညှိနှိုင်းအကြောင်းကြားပါသည်။

ပူးတွဲပါ။ စာချုပ်(မူကြမ်း) ၁စုံ

၉၊ ၁၀၊ ၂၀၁၄

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

(ဝင်းမြင့်၊ ဒုတိယဝန်ကြီး)

မိတ္တူကို

ရုံးလက်ခံ

မျှော



\\Pc4\data (d)\2014 Enterprise (SEC1)\100-2(3)\e-Visa\e-Visa General.doc

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## ပြည်ထောင်စုရှေ့နေချုပ်ရုံး
## နေပြည်တော်

စာအမှတ်၊ ၂(၅) ၃ - ၁၄၁ / နပတ(၈၇၀ )

ရက်စွဲ၊ ၂၀၁၄ ခုနှစ် ၊အောက်တိုဘာလ ၂၁ ရက်

အကြောင်းအရာ။ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာနနှင့် Myanmar Ease Net Co., Ltd တို့ Online- e-Visa System လုပ်ငန်းအတွက် ချုပ်ဆိုမည့် စာချုပ် (မူကြမ်း) အပေါ် သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ

ရည် ညွှန်း ချက် ။ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန၏၉-၁၀-၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ၁၀၀/ ၂(၃) (၇၆၉၇)/ လဝန

၁။ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာနနှင့် တင်ဒါအောင်မြင်သော Myanmar Ease Net Co., Ltd တို့ အကြားချုပ်ဆိုမည့် Online - e-Visa System လုပ်ငန်းဆောင်ရွက်မည့် စာချုပ်(မူကြမ်း) အပေါ် သဘောထားမှတ်ချက်ပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် ပေးပို့လာသောကိစ္စဖြစ်ပါသည်။

၂။ တင်ဒါအောင်မြင်သော Myanmar Ease Net Co., Ltd သည်လုပ်ငန်းကဏ္ဍအလိုက် အကောင်အထည်ဖော်နိုင်မှုနှင့် e-Visa စနစ်တစ်ခုလုံးအတွက် ရေရှည်တာဝန်ခံဆောင်ရွက်မည့် နည်းပညာနှင့် ဘဏ်လုပ်ငန်းစနစ် တစ်ပေါင်းတစ်စည်းတည်း (One Package) ပါဝင်ပြီး၊ ၂၀၁၄ ခုနှစ်၊ ဩဂုတ်လ(၁၀)ရက်နေ့မှ စမ်းသပ်ကာလအဖြစ် ဆောင်ရွက်စေခဲ့ကြောင်း၊ စက်တင်ဘာလ (၁)ရက်နေ့တွင် e-Visa စနစ် စတင်ဆောင်ရွက်နေပြီဖြစ်ကြောင်း၊ ယခုစာချုပ်အား B.O.T စနစ် ဖြင့်ချုပ်ဆိုမည်ဖြစ်ပြီး စာချုပ်သက်တမ်းမှာ (၁၀)နှစ်ဖြစ်ကြောင်း တွေ့ရှိရပါသည်။





ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် စာအမှတ် ၉ ရက်စွဲ ၂၂/၁၀

၃။ ပေးပို့လာသော စာချုပ် (မူကြမ်း) အပေါ် ဥပဒေရှုထောင့်မှ လေ့လာစိစစ်၍ အောက်ပါအတိုင်း အကြံပြုပြန်ကြားအပ်ပါသည် -

(က) စာချုပ် (မူကြမ်း) စာချုပ်ဝင်များအပိုဒ်ကို ပုံစံကျနမှုရှိစေရန် မင်နီဖြင့် ပြင်ဆင်ပေးလိုက်ပါသည်၊

(ခ) စာချုပ် (မူကြမ်း) စာချုပ်ဝင်များအပိုဒ်တွင် တစ်ဖက်စာချုပ်ဝင်ကုမ္ပဏီသည် မည်သည့်နိုင်ငံ၏ဥပဒေအရ ဖွဲ့စည်းထားခြင်းဖြစ်သည်ကို ထည့်သွင်းဖော်ပြသင့်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း) ၏ လုပ်ငန်းရည်ရွယ်ချက် အပိုဒ် ၄ (မူလအပိုဒ်) တွင် ၂၀၁၄ ခုနှစ်၊ စက်တင်ဘာလ (၁)ရက်နေ့တွင် အကောင်အထည်ဖော်နိုင်ရန် ဖော်ပြထားရာ စာချုပ်မချုပ်ဆိုမီကတည်းက ရည်ရွယ်ချက်အကောင်အထည်ဖော်ရန် ဖော်ပြထား၍ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) အဓိပ္ပာယ်ဖွင့်ဆိုချက် အပိုဒ် ၇(မူလအပိုဒ်) အပိုဒ်ခွဲ (၇-ဂ) တွင် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူသည် ဌာနမှ ညွှန်ကြားရေးမှူးချုပ်ကို လည်းကောင်း၊ အပိုဒ်ခွဲ ၇-ဃ တွင်လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် မန်နေဂျင်းဒါရိုက်တာ ဦးကျော်မိုးနိုင်နှင့် ၎င်း၏ဆက်ခံသူ၊ကုမ္ပဏီကိုလည်းကောင်းဖော်ပြထားသည်ကိုတွေ့ရှိရပါသည်။ စာချုပ်ဝင်များအပိုဒ်တွင် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူမှာ ဌာနဟုလည်းကောင်း၊ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူမှာ ကုမ္ပဏီဟုလည်းကောင်း ဖော်ပြထားချက်နှင့်ညီညွတ်မှုရှိစေရန်ဌာနမှပြန်လည်စိစစ်သင့်ပါသည်၊

(င) စာချုပ်(မူကြမ်း) အပိုဒ် (၉-က-၃) (မူလအပိုဒ်) တွင် ရည်ညွှန်းထားသော ပူးတွဲ(၁) ပူးတွဲမပါရှိသဖြင့် စိစစ်ပေးနိုင်ခြင်းမရှိပါ။ နောက်ဆက်တွဲများသည် စာချုပ်၏တစ်စိတ်တစ်ဒေသဖြစ်သဖြင့် နောက်ဆက်တွဲပူးတွဲပါဖော်ပြချက်

များသည် စာချုပ်ပါစည်းကမ်းချက်များနှင့် ညီညွတ်မှုရှိစေရန် ဌာနမှစိစစ်ရန် လိုအပ်ပါသည်။ စာချုပ်လက်မှတ်ရေးထိုးချိန်တွင် နောက်ဆက်တွဲများပြည့်စုံစွာပူးတွဲဖော်ပြရန်လိုအပ်ပါသည်။ စာချုပ်နှင့်အတူပါရှိသည့် e-Visa System Computers and Accessories List သည် စာချုပ်၏ ပူးတွဲ(၁)ဟုတ် မဟုတ် ဖော်ပြရေးသားထားခြင်းမရှိသဖြင့် ဌာနမှပြန်လည်စိစစ်သင့်ပါသည်၊

(စ) စာချုပ်(မူကြမ်း) အပိုဒ် ၉-က(မူလအပိုဒ်) လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ တာဝန်များတွင် အခြားဝန်ကြီးဌာနများမှ ကိစ္စရပ်များအားဖော်ပြထားရာ သက်ဆိုင်ရာဝန်ကြီး ဌာနများနှင့် ကြိုတင်ညှိနှိုင်းထားသင့်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း) အပိုဒ် ၉-က-၃ (မူလအပိုဒ်) တွင် "ပူးတွဲ(၁)တွင် ---------- လိုအပ်သလို သုံးစွဲခွင့်ပေး၍" ဟုဖော်ပြထားရာ ရှင်းလင်းမှုမရှိဟု ယူဆပါသဖြင့် ဌာနမှပြန်လည်စိစစ်သင့်ပါသည်။ ထို့ပြင် ပူးတွဲ(၁)တွင် ဖော်ပြထားသည့် လုပ်ငန်း များနှင့်စပ်လျဉ်း၍ ဌာနမှခွင့်ပြုပေးနိုင်ခြင်းရှိ မရှိ၊ ခွင့်ပြုပေးပိုင်ခွင့်ရှိ မရှိ တို့ကို ကြိုတင်စိစစ်ထားသင့်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း)အပိုဒ် ၉-ဃ-၁ တွင် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူမှ Online Payment ပေးချေနိုင်ရန်အတွက် နိုင်ငံတကာက ယုံကြည်စိတ်ချရသော Online Payment စနစ်များဖြင့် တာဝန်ယူဆောင်ရွက်နိုင်သည့် ဝန်ဆောင်မှုအားချိတ်ဆက်အသုံးပြုရန် စင်္ကာပူနိုင်ငံရှိသတ်မှတ်ထားသော ကုမ္ပဏီများနှင့် သဘောတူညီချက်များ ရရှိစေရေးကို စာချုပ်မချုပ်ဆိုမီ ဆောင်ရွက်ထားပြီးဖြစ်သင့်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း) အပိုဒ် ၁၇ (မူလအပိုဒ်) တွင် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် တစ်ပတ်လျှင် အမေရိကန်ဒေါ်လာ ၃၀၀၀၀၀ (သုံးသိန်း)ကို MFTB ဘဏ်သို့

ဘဏ်အာမခံအဖြစ်ပေးသွင်းရန်ဖော်ပြထားသော်လည်းအချိန်ကာလမည်မျှ အထိထားရှိမည်ဖြစ်ကြောင်းနှင့်သတ်မှတ်ကာလအတွင်းလုပ်ငန်းပြီးစီးအောင် ဆောင်ရွက်နိုင်ခြင်းမရှိပါကအဆိုပါဘဏ်အာမခံအားသိမ်းယူမည်ဖြစ်ကြောင်း ကိုဖော်ပြရန်သင့်မသင့်ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ည) စာချုပ် (မူကြမ်း) အပိုဒ် ၂၀ (မူလအပိုဒ်) Website တွင် ကြော်ငြာခြင်းတွင် အခငွေသည် လုပ်ကိုင်ခွင့်ရသူနှင့် သက်ဆိုင်ခြင်းမရှိကြောင်းဖော်ပြထားရာ မည်သူနှင့်သက်ဆိုင်သည်ကို နောင်အငြင်းမပွားစေရေးအတွက် ရှင်းလင်းစွာ ဖော်ပြ သင့်ပါသည်၊

(ဋ) စာချုပ် (မူကြမ်း) အပိုဒ် ၂၁ (မူလအပိုဒ်) တားမြစ်ခြင်းတွင်ဖော်ပြထားသည့် လုပ်ငန်းဆောင်ရွက်မှုများကို မည်သူကမပြုလုပ်ရန်ဖြစ်သည်ကို နောင်အငြင်း မပွားစေရေးအတွက် ရှင်းလင်းစွာထည့်သွင်းဖော်ပြသင့်ပါသည်၊

(ဌ) စာချုပ် (မူကြမ်း) အပိုဒ် ၂၂ စာချုပ်ရုပ်စဲခြင်းတွင် "စာချုပ်သက်တမ်းကုန်ဆုံး ခြင်း" အား စာချုပ်ရုပ်စဲနိုင်သည့် စည်းကမ်းချက်အဖြစ် မင်နီဖြင့်ဖြည့်စွက် ပေးလိုက်ပါသည်၊

(ဍ) စာချုပ်(မူကြမ်း) အပိုဒ် ၂၆ အငြင်းပွားမှုဖြေရှင်းခြင်းတွင် အငြင်းပွားမှုကို နှစ်ဖက်ညှိနှိုင်းဖြေရှင်းရမည်။ ညှိနှိုင်းဖြေရှင်း၍မရပါက ဝန်ကြီးဌာန၏ စီမံ ခန့်ခွဲမှုကိုခံယူပြီး မြန်မာနိုင်ငံတည်ဆဲဥပဒေများနှင့်အညီ လိုက်နာဆောင်ရွက် ရမည်ဖြစ်ကြောင်းဖော်ပြထားပါသည်။ ယင်းအစား တရားမျှတမှုရှိရန် အောက်ပါ နည်းလမ်းတစ်ရပ်အားဖော်ပြသင့်ပါသည်-

(၁) မြန်မာနိုင်ငံသားအချင်းချင်းကြားချုပ်ဆိုသည့် စာချုပ်ဖြစ်၍ အလား တူစာချုပ်များတွင် အသုံးပြုလေ့ရှိသည့် အနုညာတခုံရုံးနည်းလမ်းဖြင့် ဖြေရှင်းသည့်နည်းလမ်းအား Slip ကပ်ပေးလိုက်ပါသည်။

သို့မဟုတ် မြန်ဆန်လွယ်ကူစေသော

(၂) ဤစာချုပ်နှင့်စပ်လျဉ်း၍ အငြင်းပွားမှုတစ်စုံတစ်ရာပေါ်ပေါက်လာပါက စာချုပ်ဝင်နှစ်ဦးနှစ်ဖက် ငြိမ်းချမ်းသောနည်းလမ်းဖြင့် ဖြေရှင်းရမည်။ အငြင်းပွားမှုအား ငြိမ်းချမ်းစွာဖြေရှင်း၍မရပါက ဥပဒေနှင့်အညီ စီရင်ပိုင်ခွင့်ရှိသော တရားရုံး၏ အဆုံးအဖြတ်ကိုခံယူရမည်ဟူသော စည်းကမ်းချက်ကိုဖော်ပြသင့်ပါသည်။

(ဃ) စာချုပ်(မူကြမ်း)အပိုဒ် ၂၇ တွင် "သဘောတူချုပ်ဆိုထားသော ကာလကုန်ဆုံး၍ သက်တမ်းတိုးမြှင့်ခြင်းမရှိတော့ပါက" ဟု ဖော်ပြထားသော်လည်း စာချုပ်တွင် စာချုပ်သက်တမ်းတိုးခြင်းနှင့်စပ်လျဉ်း၍ စည်းကမ်းချက်ဖော်ပြထားသည်ကို မတွေ့ရှိရပါ။ စာချုပ် သက်တမ်းကုန်ဆုံးပါက သက်တမ်းတိုးလျှင် တစ်ကြိမ်လျှင်နှစ်မည်မျှစီဖြင့်အကြိမ်ရေမည်မျှကိုမည်သူ၏အတည်ပြုချက်ဖြင့်တိုးမြှင့်နိုင်သည်ကို သီးခြားခေါင်းစဉ်ဖြင့် ဖော်ပြသင့်ပါသည်။ ဌာနမှ ပြန်လည်စိစစ်ရန် ဖြစ်ပါသည်၊

(ဏ) စာချုပ်(မူကြမ်း)အပိုဒ် ၂၈(ခ) တွင် တင်ဒါဆိုပြုလွှာကို ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ အဆိုပြုလွှာပါ ကိစ္စရပ်များကို စာချုပ်တွင် စည်းကမ်းချက်များအဖြစ်ထည့်သွင်းသင့်ပါသည်၊

(တ) လိုအပ်သောနေရာအချို့တွင် မင်နီဖြင့် ပြင်ဆင်၊ ဖြည့်စွက်ပေးလိုက်ပါသည်။

၄။ စာချုပ်(မူကြမ်း)မှာ ကျွမ်းကျင်မှုနှင့် အဓိကသက်ဆိုင်ကြောင်းတွေ့ရှိရ၍ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် စာချုပ်မချုပ်ဆိုမီ ကြိုတင်ညှိနှိုင်းဆောင်ရွက်သင့်ပါသည်။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ် (၁)၊ သစ္စာလမ်းမကြီး၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်။

ရက်စွဲ ။ ၂၀၁၆၊ ဖေဖော်ဝါရီ လ၊ ၂ ရက်။

အကြောင်းအရာ။ ။ <u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များတင်ပြခြင်း။</u>

လေးစားရပါသော လူကြီးမင်းများခင်ဗျား။ ။

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ကျွန်တော်တို့၏ MYANMAR EASE NET CO., LTD သည် ဒီဇင်ဘာလ (၃၀)ရက်၊ ၂၀၁၁ ခုနှစ်တွင် ကုမ္ပဏီမှတ်ပုံတင်အမှတ် – ၃၂၆၄/၂၀၁၁-၂၀၁၂/၃၀-၁၂-၂၀၁၁ နေ့ဖြင့် IT Development လုပ်ငန်းကို လုပ်ကိုင်ဆောင်ရွက်လျက်ရှိသော ကုမ္ပဏီဖြစ်ပါသည်။ ယခုအခါတွင် ကျွန်တော်တို့ကုမ္ပဏီအနေဖြင့် Online eVisa System ကို လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာနမှ တာဝန်ယူကြီးကြပ်မှုဖြင့် ပြည်ပခရီးသည်များပြည်ဝင်မှုလွယ်ကူလျှင်မြန်စေရေးအတွက် Service Provider အနေဖြင့် BOT စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိခဲ့ပါသည်။ MYANMAR EASE NET CO., LTD သည် ရန်ကုန်၊ မန္တလေး၊ နေပြည်တော်လေဆိပ်များတွင် eVisa အတွက် လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်နေသော ကုမ္ပဏီဖြစ်ပါသည်။ eVisa လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ရရှိနိုင်ရန် မြန်မာရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာများကိုပေးပို့တင်ပြလျှောက်ထားအပ်ပါသည်။

လျှောက်လွှာနှင့်အတူအောက်ဖော်ပြပါ အထောက်အထားစာရွက်စာတမ်းများကိုပူးတွဲတင်ပြအပ်ပါသည်။

(၁) ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်းနိုင်ငံသားရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန်ကမကတပြုလုပ်သူ၏ဆောင်ရွက်ရန်အဆိုပြုချက်၊ နောက်ဆက်တွဲဇယား (၁)
(၂) ဒါရိုက်တာအဖွဲ့စာရင်း၊ နောက်ဆက်တွဲဇယား (၂)
(၃) ရင်းနှီးမြှုပ်နှံမှုဇယား၊ နောက်ဆက်တွဲဇယား (၃)
(၄) ဘဏ္ဍာရေးအချက်အလက်များနှင့်ပတ်သက်၍ တွက်ချက်မှုဇယားများ၊နောက်ဆက်တွဲဇယား(၄)
(၅) ဘဏ်ရှင်းတမ်း (ငွေရေးကြေးရေးအထောက်အထားများ)၊ နောက်ဆက်တွဲဇယား(၅)
(၆) ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာနလူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာနနှင့် MYANMAR EASE NET CO., LTD တို့၏ Online eVisa System လုပ်ငန်းအား တာဝန်ယူဆောင်ရွက်ရန်နှစ်ဦးနှစ်ဘက်သဘောတူချုပ်ဆိုသည့်သဘောတူညီချက်ပဋိညာဉ်စာချုပ်၊နောက်ဆက်တွဲဇယား (၆)
(၇) ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းစာရင်း၊ နောက်ဆက်တွဲဇယား (၇)
(၈) ပြည်တွင်းမှ ဝယ်ယူပြီးစီးထားသည့် စက်ပစ္စည်းစာရင်း၊ နောက်ဆက်တွဲဇယား (၈)
(၉) လုပ်ငန်းဆောင်ရွက်ပုံအဆင့်ဆင့်၊ နောက်ဆက်တွဲဇယား (၉)
(၁၀) လုပ်ငန်းခွင်သာယာရေးနှင့်ဝန်ထမ်းများသက်သာချောင်ချိရေးစီမံချက်၊နောက်ဆက်တွဲဇယား(၁၀)
(၁၁) C.S.R နှင့်ပတ်သက်၍ ဝန်ခံကတိပြုတင်ပြခြင်း၊ နောက်ဆက်တွဲဇယား (၁၁)
(၁၂) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သန့်ရှင်းသာယာရေးစီမံချက်အစီအစဉ်၊နောက်ဆက်တွဲဇယား(၁၂)
(၁၃) မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ နောက်ဆက်တွဲဇယား(၁၃)
(၁၄) ကုမ္ပဏီမှတ်ပုံတင်လက်မှတ်မိတ္တူ၊ ပုံစံ ၆/၂၆ မိတ္တူ၊ ကုမ္ပဏီသင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း၊ နောက်ဆက်တွဲဇယား (၁၄)
(၁၅) ရုံးခန်းအငှားစာချုပ်၊ နောက်ဆက်တွဲဇယား (၁၅)

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

KYAW MOE NAING
MANAGING DIRECTOR
MYANMAR EASE NET CO., LTD.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ် (၁)၊ သစ္စာလမ်းမကြီး၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်။

ရက်စွဲ ။ ၂၀၁၆၊ ဖေဖော်ဝါရီ လ၊ ၂ ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်ဖြင့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ (၂၀)ဘို့အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များလျှောက်ထားခြင်း။

လေးစားအပ်ပါသောလူကြီးမင်းများခင်ဗျား။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေအရကျွန်တော်တို့ MYANMAR EASE NET CO., LTD သည် Online eVisa System ကို လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာနမှ တာဝန်ယူကြီးကြပ်မှုဖြင့် ပြည်ပခရီးသည်များပြည်ဝင်မှုလွယ်ကူလျှင်မြန်စေရေးအတွက် Service Provider အနေဖြင့် BOT စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိခဲ့ပြီး ရန်ကုန်၊ မန္တလေး၊ နေပြည်တော်လေဆိပ်များတွင် eVisa အတွက် လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်နေပါသည်။ eVisa လုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ရရှိနိုင်ရန် မြန်မာရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာများကိုပေးပို့တင်ပြ လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

၂။ ကျွန်တော်တို့ကုမ္ပဏီသည် မြန်မာနိုင်ငံအတွင်းOnline eVisa System လုပ်ငန်းကိုဆောင်ရွက်နေပါသည်။

၃။ ကျွန်တော်တို့ကုမ္ပဏီသည် Online eVisa System လုပ်ငန်းအတွက် လိုအပ်သောပစ္စည်းကိရိယာတန်ဖိုး အမေရိကန်ဒေါ်လာ (၄၁၁၃၅၀)ကို ပြည်ပမှမှာယူတင်သွင်းမည်ဖြစ်ပါသည်။

၄။ ကျွန်တော်တို့ Online eVisa System လုပ်ငန်းအတွက် လိုအပ်သော ဝန်ထမ်းများကို ပြည်တွင်းရှိ အတတ်ပညာရှင်များနှင့် ဝန်ထမ်းများကို ခန့်ထားပါသည်။

၅။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ(၂၀)အရ အောက်ပါအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုပေးပါရန် ရိုသေလေးစားစွာဖြင့် တင်ပြလျှောက်ထားအပ်ပါသည်။

(က) ကုန်ထုတ်လုပ်ငန်း (သို့) ဝန်ဆောင်မှုလုပ်ငန်းတစ်ခုခုစီးပွားဖြစ် စတင်သောနှစ်အပါအဝင် တစ်ဆက်တည်းငါးနှစ်အထိဝင်ငွေခွန်ကင်းလွတ်ခွင့်၊

